Myanmar Agro Exchange Public Ltd. မှ ရန်ကုန်မြို့တော် စည်ပင် သာယာရေးကော်မတီပိုင်
ရန်ကုန်တိုင်းဒေသကြီး၊ အင်းစိန်မြို့နယ် တွင် လယ်ယာထွက်ကုန် လက်ကားဈေးကွက် ဆိုင်ရာအခြေခံ
အဆောက်အအုံများ တည်ဆောက်ခြင်းလုပ်ငန်း အပိုင်း(၁)အား ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက်
တင်ပြလာခြင်းနှင့် စပ်လျဉ်း၍ ကော်မရှင်အစည်းအဝေးသို့ တင်ပြရန် ကြာချိန်

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့် နေ့စွဲ | ပြန်ကြားချက် ရရှိသည့် နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁။ | အဆိုပြုချက်လက်ခံရရှိခြင်း | ၅-၅-၂၀၁၇ | - | - |
| ၂။ | **သဘောထားမှတ်ချက်တောင်းခံခြင်း** | | | |
| | သယံဇာတနှင့် သဘာဝ ပတ်ဝန်းကျင်ထိန်းသိမ်း ရေးဝန်ကြီးဌာန | ၁၉-၆-၂၀၁၇ | | |
| ၃။ | PATအစည်းအဝေး (၁၃/၂၀၁၇) သို့ တင်ပြခြင်း | ၈-၅-၂၀၁၇ | | |
| ၄။ | PAT အစည်းအဝေး ဆုံးဖြတ်ချက် ကုမ္ပဏီသို့ ပြန်ကြားသည့် ရက်စွဲ | ၁၇-၅-၂၀၁၇ | | |
| ၅။ | ကုမ္ပဏီမှ အဆိုပြုချက် ပြင်ဆင်တင်ပြလာသည့် ရက်စွဲ | ၁၆-၆-၂၀၁၇ | | |
| ၆။ | ကော်မရှင်အစည်းအဝေးသို့ တင်ပြမည့် အကြိမ် နှင့် ရက်စွဲ | ၁၀/၂၀၁၇<br>၁၁-၇-၂၀၁၇ | | |
| | **စုစုပေါင်း** | **(၆၀) ရက်** | | |

## ရင်းနှီးမြှုပ်နှံမှုဌာနခွဲ(၃)
## PAT ၏ ဆွေးနွေးဆုံးဖြတ်ချက်အပေါ် ဆောင်ရွက်မှု

| စဉ် | လုပ်ငန်းအမည် | အမျိုးအစား | PAT အကြိမ်/နေ့စွဲ | ဆွေးနွေးချက်မှပြင်ဆင်ရန်လိုအပ်ချက် | | ဆောင်ရွက်ပြီးစီးမှု | အလံအမှတ် |
|---|---|---|---|---|---|---|---|
| ၁။ | Myanmar Agro Exchange Public Ltd. | လယ်ယာထွက်ကုန် လက်ကားဈေးကွက်ဆိုင်ရာ အခြေခံ အဆောက်အအုံများ တည်ထောင်ခြင်း လုပ်ငန်းအပိုင်း (၁) | (၁၃/၂၀၁၇) ၈-၅-၂၀၁၇ | (က) | လုပ်ငန်းအမျိုးအစား ပြင်ဆင်တင်ပြရန်။ | ပြင်ဆင်ပြီး | က |
| | | | | (ခ) | ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းအပိုင်း (၁)အတွက်သာ အဆိုပြုချက်ကို ပြင်ဆင် တင်ပြရန်။ | ပြင်ဆင်ပြီး | ခ |
| | | | | (ဂ) | တည်ဆောက်ရေး ကာလနှင့် မတည်ငွေရင်းတို့ကို ပြင်ဆင်တင်ပြရန်။ | ပြင်ဆင်ပြီး | ဂ |
| | | | | (ဃ) | စက်ပစ္စည်း စာရင်းအား Phase တစ်ခုချင်းစီ အလိုက် ခွဲခြားတင်ပြရန်နှင့် ပြည်တွင်းဝယ်နှင့် ပြည်ပဝယ် စာရင်း သီးခြားစီ ဖော်ပြရန်။ | ပြင်ဆင်ပြီး | ဃ |

## Myanmar Agro Exchange Public Ltd. မှ ရန်ကုန်မြို့တော်စည်ပင် သာယာရေး ကော်မတီပိုင် ရန်ကုန်တိုင်းဒေသကြီး၊ အင်းစိန်မြို့နယ် တည်းကုန်းရပ်ကွက်၊ ပုလဲလမ်း နှင့် ရွှေပြည်သာတံတားလမ်းထောင့်ရှိ မြေဧရိယာ ၈၂.၇၈ ဧကတွင် လယ်ယာထွက်ကုန် လက်ကားဈေးကွက်ဆိုင်ရာ အခြေခံအဆောက်အအုံများ တည်ထောင်ခြင်းလုပ်ငန်းအပိုင်း (၁) နှင့် စပ်လျဉ်းသည့် အဓိကအချက်များ

| | | | |
|---|---|---|---|
| ၁။ | ကုမ္ပဏီအမည် | - | Myanmar Agro Exchange Public Ltd. |
| ၂။ | လုပ်ငန်းအဆိုပြုသူအမည် | - | ဦးဝင်းအောင် |
| ၃။ | အဆိုပြုလုပ်ငန်းအမျိုးအစား | - | အကြီးစားပွဲရုံနှင့် လူနေဆိုင်ခန်း ၃ထပ် အဆောက် အဦ၊ အကြီးစားပွဲရုံနှင့် လူနေဆိုင်ခန်း၄ထပ် အဆောက်အဦ၊ သစ်သီးမျိုးစုံ ရောင်းချရေးဆိုင်ခန်းများ ဈေးရုံ အဆောက်အဦနှင့် တောင်သူ/လက်လီ ရောင်းဝယ်သူများ ဈေးရုံ အဆောက်အဦ စသည့်တို့ပါဝင်သည့် လယ်ယာထွက်ကုန် လက်ကားဈေးကွက်ဆိုင်ရာ အခြေခံအဆောက်အအုံ များတည်ထောင်ခြင်း **လုပ်ငန်းအပိုင်း (၁)** |
| | လုပ်ငန်းတည်နေရာ / မြေအကျယ်အဝန်း | - | မြေကွက်အမှတ် ၃၄/ ခ၊ ၃၄/ခ၁၊ ၃၄/ခ၂၊ ပုလဲလမ်း နှင့် ရွှေပြည်သာ တံတားလမ်းထောင့်၊ မြေတိုင်းရပ်ကွက် အမှတ် ၄၀၃၊ အင်းစိန်မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ စုစုပေါင်း မြေဧရိယာ ၈၂.၇၈ ဧက |
| | မြေပိုင်ရှင် | - | ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီ |
| | မြေပိုင်ရှင်၏ အကျိုးခံစားခွင့် | - | (က) လုပ်ငန်းလည်ပတ် အကောင်အထည်ဖော်ခြင်းမှ နှစ် အလိုက် ရရှိသော အမြတ်ငွေ၏ ၂၅ %ကို အကျိုးတူ ပူးပေါင်း ဆောင်ရွက်သူသို့ အကျိုးတူ ရင်းနှီးမြှုပ်နှံသူမှ နှစ်စဉ်ပေးအပ်ရန်။<br>(ခ) စုစုပေါင်း Shop House အရေ အတွက်၏ ၂၀ % ကို အကျိုးတူ ရင်းနှီးမြှုပ်နှံသူက အကျိုးတူ ပူးပေါင်းဆောင်ရွက်သူသို့ လွှဲပြောင်းပေးအပ်ရပါမည်။ |
| ၄။ | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - | ကျပ် ၄၆၆၈၂.၀၀ သန်း |
| ၅။ | ရင်းနှီးမြှုပ်နှံမှုသက်တမ်း | - | ကနဦး ၅၀ နှစ် |
| ၆။ | တည်ဆောက်ရေးကာလ | - | ၂ နှစ် |
| ၇။ | ဝန်ဆောင်မှု(၆)နှစ်မြောက် | | |

| ဝန်ဆောင်မှုပုံစံ | စုစုပေါင်း စတုရန်းပေ | စုစုပေါင်း ဝင်ငွေ (ကျပ် သန်း) |
|---|---|---|
| Shop House (Sale)<br>(က) 3 Storey | ၆၇၄၇ | ၄၇၂.၂၉ |
| (က) 4 Storey | ၈၈၀၆ | ၆၁၆.၄၂ |

| စဉ် | ဝန်ဆောင်မှုပုံစံ | တစ်လ စုစုပေါင်း ဝင်ငွေ (ကျပ် ) |
|---|---|---|
| (က) | Meat, Fish, Sea food & Kitchen-ware Ground Market | ၆၈,၇၅၀ |
| (ခ) | Small Fruit whole sale market (Rent) | ၆၈,၇၅၀ |
| (ဂ) | Flower & Fruit & Vegetable Ground Market | ၁၅,၀၀၀ |
| (ဃ) | Seasonal Fruit Market (small) whole sale market (Rent) | ၆၈,၇၅၀ |
| (င) | Cold Store | ၆၄,၃၂၅,၀၀၀ |
| (စ) | Food Court | ၂၂,၈၃၇,၅၀၀ |
| (ဆ) | Truck/parking fees | ၁၅,၄၇၁,၄၀၀ |

| | | | |
|---|---|---|---|
| ၈။ | ဝင်ငွေ (၆ နှစ်မြောက်) | - | ကျပ် ၅၃၀၀.၉၉ သန်း |
| | အသုံးစရိတ် | - | ကျပ် ၄၄၄၄.၃၉ သန်း |
| | အသားတင်အမြတ် (၆ နှစ်မြောက်) | - | ကျပ် ၈၅၆.၆၀ သန်း |
| ၉။ | နိုင်ငံတော်မှရရှိမည့်အကျိုးအမြတ် (၆ နှစ်မြောက်) | - | |
| | - ဝင်ငွေခွန် | | ကျပ် ၂၈၅.၅၃ သန်း |
| | - ကုန်သွယ်လုပ်ငန်းခွန် | | ကျပ် ၂၆၅.၀၅ သန်း |
| ၁၀။ | ဝန်ထမ်းအင်အား (ပြည်တွင်း) | - | **၄၇ ဦး**<br>အနိမ့်ဆုံးဝန်ထမ်းတစ်ဦး၏ လစာမှာကျပ် ၁၂၀,၀၀၀ ဖြစ်ပြီး အမြင့်ဆုံး ဝန်ထမ်း၏ လစာမှာကျပ် ၄၀၀,၀၀၀ ဖြစ်ပါသည်။ |
| ၁၁။ | လျှပ်စစ်ဓါတ်အားသုံးစွဲမှု | - | ၁၅ MVA/year |
| ၁၂။ | CSR | - | ၂ % |

## ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
## မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ မရက-၄/မ-၁၅၈၂/၂၀၁၇( ၅၄ )

ရက်စွဲ၊ ၂၀၁၇ ခုနှစ် ဇူလိုင်လ ၇ ရက်

**မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ တင်ပြသည့်**

**အမှာစာ**

အကြောင်းအရာ။ **Myanmar Agro Exchange Public Ltd. မှ ရန်ကုန်မြို့တော် စည်ပင်သာယာရေးကော်မတီပိုင် ရန်ကုန်တိုင်းဒေသကြီး၊ အင်းစိန်မြို့နယ် တညင်းကုန်း ရပ်ကွက်၊ ပုလဲလမ်းနှင့် ရွှေပြည်သာတံတားလမ်းထောင့်ရှိ မြေဧရိယာ ၈၂.၇၈ ဧကတွင် လယ်ယာထွက်ကုန်လက်ကားဈေးကွက် ဆိုင်ရာအခြေခံ အဆောက်အအုံများ တည်ထောင်ခြင်း လုပ်ငန်းအပိုင်း(၁)အား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းကိစ္စ**

၁။ Myanmar Agro Exchange Public Ltd. မှ ရန်ကုန်မြို့တော် စည်ပင်သာယာရေးကော်မတီပိုင် မြေကွက်အမှတ် ၃၄/ ခ၊ ၃၄/ခ^၁၊ ၃၄/ခ^၂၊ ပုလဲလမ်း နှင့် ရွှေပြည်သာ တံတားလမ်းထောင့်၊ မြေတိုင်းရပ်ကွက် အမှတ် ၄၀၃၊ အင်းစိန်မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ စုစုပေါင်း မြေဧရိယာ ၈၂.၇၈ ဧကတွင် လယ်ယာထွက်ကုန်လက်ကားဈေးကွက်ဆိုင်ရာ အခြေခံအဆောက်အအုံများ တည်ထောင်ခြင်းလုပ်ငန်း အပိုင်း(၁)အား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးဝင်းအောင်မှ ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီမှတစ်ဆင့် ရည်ညွှန်းပါစာဖြင့် အဆိုပြုချက်တင်ပြလာပါသည်။

၂။ အဆိုပြုလုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှု သက်တမ်းကာလမှာ ကနဦး (၅၀) နှစ်နှင့် သက်တမ်းတိုး (၁၀) နှစ် (၂)ကြိမ် ဖြစ်ပြီး တည်ဆောက်ရေးကာလမှာ (၂)နှစ်ဖြစ်ပါသည်။

၃။ အဆိုပြုချက်နှင့်အတူ ပြည်ထောင်စုရှေ့နေချုပ်ရုံး သဘောထားမှတ်ချက်နှင့်အညီ ပြင်ဆင်၍ ရန်ကုန်မြို့တော်စည်ပင်သာယာရေး ကော်မတီနှင့် Myanmar Agro Exchange Public Ltd. တို့ ၂၂-၃-၂၀၁၆ ရက်နေ့တွင် ချုပ်ဆိုခဲ့သည့် တညင်းကုန်း သစ်သီးဝလံ ပန်းမန် လက်ကားဈေးကြီးတည်ဆောက်အကောင်အထည်ဖော်ခြင်း သဘောတူစာချုပ်ကိုတင်ပြထားပါသည်။လုပ်ငန်းသဘောတူစာချုပ်ပါ အဓိကအချက်များမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

(က) အဆိုပါလုပ်ငန်းမြေနေရာ ဧက ၈၂.၇၈ တွင် စက်မှု ဝန်ကြီး ဌာနပိုင် မြေဧက ၂၀ ပါဝင်ပါနေပါသဖြင့် ယင်းဧက ၂၀ ကိုစက်မှုဝန်ကြီးဌာနက နိုင်ငံတော်သို့ပြန်လည်အပ်နှံပြီးအကျိုးတူပူးပေါင်းဆောင်ရွက်သူသို့ လွှဲပြောင်းပေးရန် သဘောတူကာ စီစဥ်ဆောင်ရွက်လျက်ရှိပြီး ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့ အစည်းအဝေး အမှတ်စဥ်

၁၂/၂၀၁၆ (၁၇-၃-၂၀၁၆)မှ လုပ်ငန်းအကောင်အထည်ဖော် ဆောင်ရွက်နိုင်ရန် အတွက် လုပ်ငန်းသဘောတူ စာချုပ်ချုပ်ဆိုရန် နှင့် စက်မှုဝန်ကြီးဌာန၏ မြေ ၂၀ ဧက ကို လွှဲပြောင်းရရှိရေးဆက်လက်ဆောင်ရွက်သွားရန် ဆုံးဖြတ်ခဲ့ပါသည်။ စက်မှုဝန်ကြီး ဌာနမှပိုင်ဆိုင်သော မြေဧက ၂၀ကို မရရှိပါက စာချုပ်ဝင်နှစ်ဦးနှစ်ဘက် အကျိုးခံစား ခွင့်များကို ညှိနှိုင်း ဆောင်ရွက်သွားရန်ဖြစ်ပါသည်။ **(စာချုပ်အပိုဒ် ၂-၁)**

(ခ) ဤသဘောတူစာချုပ်အပိုဒ် ၆-၁အပိုင်း(၁)တွင် ဖော်ပြထားသော လုပ်ငန်း အဆောက် အဦများ တည်ဆောက်ပြီးနောက် အကျိုးတူရင်းနှီးမြှုပ်နှံသူမှ စီမံခန့်ခွဲအုပ်ချုပ်၍ လုပ်ငန်းလည်ပတ် အကောင်အထည် ဖော်ဆောင်ရွက်သွားမည်။ **(စာချုပ်အပိုဒ် ၃-က)**

(ဂ) ဤသဘောတူ စာချုပ်အပိုဒ် ၆-၁ အပိုင်း(၂)တွင် ဖော်ပြထားသော Shophouse များ အနက် အပိုဒ်၇-၁(ခ)အရ အကျိုးတူပူးပေါင်းဆောင်ရွက်သူသို့ တည်ဆောက်လွှဲ ပြောင်းပေးရမည့် Shophouse များမှအပ အခြားလုပ်ငန်းအဆောက်အဦများကို အကျိုးတူ ရင်းနှီး မြှုပ်နှံသူမှ ရောင်းချခြင်းပြုပါမည်။ **(စာချုပ်အပိုဒ် ၃-ခ)**

(ဃ) အကျိုးတူရင်းနှီးမြှုပ်နှံသူသည် လုပ်ငန်းအဆောက်အဦ စီမံခန့်ခွဲမှု ဆောင်ရွက်ခြင်း ကို ဤသဘောတူစာချုပ် အပိုဒ်၄)ပါ လုပ်ငန်းလည်ပတ်လုပ်ကိုင်နိုင်မှု သက်တမ်း ကာလ တလျှောက်လုံးဆောင်ရွက်ရမည်။ ထိုသက်တမ်း ကုန်ဆုံးချိန်တွင် ၎င်းစီမံ ခန့်ခွဲမှုကို အကျိုးတူပူးပေါင်း ဆောင်ရွက်သူထံသို့ ရင်းနှီးမြှုပ်နှံသူမှ လွှဲပြောင်းပေး ရမည်။ **(စာချုပ်အပိုဒ် ၃-ဂ)**

(င) လုပ်ငန်းလည်ပတ် လုပ်ကိုင်မှုသက်တမ်းမှာ စတင် လည်ပတ် သည့်နေ့မှ ကနဦး နှစ် ၅၀ အကောင်အထည် ဖော်ဆောင်ရွက်ရမည်ဖြစ်သည်။ ယင်းသက်တမ်းကို အကျိုးတူ ပူးပေါင်းဆောင်ရွက်သူ၏ သဘောတူညီမှု အရ တစ်ကြိမ်လျှင်(၁၀)နှစ်နှစ်စီဖြင့် နှစ်ကြိမ် တစ်ဆက်တည်း သက်တမ်းတိုးမြှင့်ခွင့်ပြုနိုင်ပါသည်။ **(စာချုပ်အပိုဒ် ၄)**

(စ) အကျိုးတူရင်းနှီးမြှုပ်နှံသူမှ အာမခံငွေအဖြစ် လုပ်ငန်း ကုန်ကျငွေ၏ ဝ.၅ % ကျပ် ၅၀၀,၀၀၀,၀၀၀ (ကျပ်သန်း ငါးရာ) တန်ဖိုးရှိ ပြည်တွင်းဘဏ်တစ်ခုမှ ထုတ်ပေးသည့် လုပ်ငန်း ဆောင်ရွက်မှု ဘဏ်မအာမခံစာ (Performance Bank Guarantee) ကို အကျိုးတူ ပူးပေါင်းဆောင်ရွက်သူသို့ ဤသဘောတူစာချုပ် လက်မှတ် ရေးထိုးပြီး (၁၄) ရက်အတွင်း ပေးအပ်ရမည်။ ၎င်းအာမခံသည့် လုပ်ငန်းအဆောက်အဦများ တည်ဆောက် ပြီးစီးသည့်အခါ အဆိုပါဘဏ်အာမခံကို အကျိုး တူရင်းနှီးမြှုပ်နှံသူသို့ ပြန်လည်ထုတ်ပေးမည်ဖြစ်သည်။ **(စာချုပ်အပိုဒ် ၅-၁)**

(ဆ) ဤသဘောတူစာချုပ် အပိုဒ် ၆-၁ အပိုင်း- ၁ တွင် ဖော်ပြထားသော လုပ်ငန်းလည်ပတ် အကောင်အထည်ဖော်ခြင်းမှ နှစ်အလိုက်ရရှိသော အမြတ်ငွေ၏ ၂၅ %ကို အကျိုးတူ ပူးပေါင်း ဆောင်ရွက်သူသို့ အကျိုးတူရင်းနှီးမြှုပ်နှံသူမှ နှစ်စဥ်ပေးအပ်ပါမည်။

**(စာချုပ်အပိုဒ် ၇-၁(က))**

(ဇ) ဤသဘောတူစာချုပ် အပိုဒ် ၆-၁ အပိုင်း ၂ အမှတ်စဥ် (၁)တွင်ပါဝင်သော Shop House အလုံးပေါင်း (၂၀၀) သို့မဟုတ် ယင်း Shop House တည်ဆောက်ရန် လျာထားသည့် လုပ်ငန်းမြေနေရာပေါ်တွင် တည် ဆောက်နိုင်မည့် စုစုပေါင်း Shop House အရေအတွက်၏ ၂၀ % ကို အကျိုးတူရင်းနှီးမြှုပ်နှံသူက အကျိုးတူပူးပေါင်း ဆောင်ရွက်သူသို့ လွှဲပြောင်းပေးအပ် ရပါမည်။ ကျန်ရှိသော Shop House ၈၀ % နှင့် အပိုဒ် ၆-၁ အပိုင်း -၂ အမှတ်စဥ်(၂)နှင့်(၃)တွင် ဖော်ပြထားသော လုပ်ငန်းအဆောက် အဦများ၏ တည်ဆောက်ရောင်းချခြင်း (သို့မဟုတ်) အငှားချထားခြင်းမှ ရရှိသော အသားတင်အမြတ်ငွေ၏ ၂၅ % ကို နှစ်အလိုက် အကျိုးတူ ပူးပေါင်းဆောင်ရွက်သူသို့ နှစ်စဥ်ပေးအပ်ရမည်။ **(စာချုပ်အပိုဒ် ၇-၁(ခ))**

(ဈ) အကျိုးတူရင်းနှီးမြှုပ်နှံသူသည် လုပ်ငန်းမြေနေရာကို လုပ်ငန်းအဆောက်အအုံများ တည်ဆောက် အကောင်အထည်ဖော် ဆောင်ရွက်ရန်သာ သီးသန့်အသုံးပြုရမည်။ လုပ်ငန်း မြေနေရာပေါ်တွင် လုပ်ငန်းအဆောက်အအုံများကို အကျိုးတူပူးပေါင်း ဆောင်ရွက်သူက အတည်ပြုသည့် အဆောက်အအုံအမျိုးအစား၊ ရေးဆွဲချက်တို့နှင့် အညီ စီမံတည်ဆောက်ရမည်။ လုပ်ငန်းမြေနေရာကို ရောင်းချခြင်း၊ အငှားချထားခြင်း၊ ပေါင်နှံခြင်း၊ အခြားတစ်နည်း နည်းဖြင့် လွှဲပြောင်းခြင်းမပြုရ။ **(စာချုပ်အပိုဒ် ၁၁-(က))**

(ည) လုပ်ငန်းအဆောက်အအုံအချို့အား လုပ်ငန်းလိုအပ်ချက်အရ ပုံစံပြင်ဆင်ပြောင်းလဲ တည်ဆောက်ရန် လိုအပ်ပါက အပိုဒ် ၆-၅နှင့်အညီ အကျိုးတူပူးပေါင်း ဆောင်ရွက်သူ ၏ အတည်ပြုချက်ရယူ၍ အကျိုးတူရင်းနှီးမြှုပ်နှံသူက ပြောင်းလဲတည်ဆောက်နိုင်ပါ သည်။ သို့ရာတွင် အဆိုပါပြောင်းလဲတည်ဆောက်သည့် အဆောက်အအုံ၏ စုစုပေါင်း ဧရိယာသည် မူလဧရိယာထက် တိုးမြှင့်လာခဲ့ပါမူ ထိုတိုးမြှင့်လာသည့် ဧရိယာအပေါ် အကျိုးတူပူးပေါင်း ဆောင်ရွက်သူမှ ၂၀ % အကျိုးခံစားခွင့်ရှိရမည်။

**(စာချုပ်အပိုဒ် ၁၁-(ခ))**

(ဋ) ဤသဘောတူစာချုပ်သက်တမ်းမှာ လုပ်ငန်းစတင် လည်ပတ်သည့် ကနဦးနှစ် ၅၀ ဖြစ်သည်။ကနဦးနှစ် ၅၀ ကုန်လွန်ပြီးနောက် တစ်ကြိမ်လျှင်၁၀ နှစ်စီဖြင့် နှစ်ကြိမ် တစ်ဆက်တည်း တိုးမြှင့်နိုင်ပါသည်။ **(စာချုပ်အပိုဒ် -၁၃)**

(ဌ) ဤသဘောတူစာချုပ်သက်တမ်း ကုန်ဆုံးသည့်အခါ အကျိုးတူရင်းနှီးမြှုပ်နှံသူသည် လုပ်ငန်းမြေနေရာ၊ စီမံခန့်ခွဲခြင်းနှင့်အတူ လုပ်ငန်းမြေနေရာပေါ်ရှိ အပိုဒ်၆-၁ အပိုင်း ၁ပါ လုပ်ငန်း အဆောက်အအုံများနှင့် ယင်းအဆောက်အအုံများတွင် တပ်ဆင်ထား သည့်မရွှေ့မပြောင်းနိုင်သောပစ္စည်းများအားလုံးကို သဘောတူစာချုပ် ကုန်ဆုံးသည့် (သို့မဟုတ်) ရပ်စဲသည့်နေ့မှ (တစ်)လအတွင်း မည်သည့်အဖိုးစားနားမျှ မပါရှိ ဘဲလွှဲပြောင်း ပေးအပ်ခြင်း ပြုရမည်။ **(စာချုပ်အပိုဒ်-၁၄)**

၄။ လုပ်ငန်းအပိုင်း (၁)၏ ရင်းနှီးမြှုပ်နှံမှု ပမာဏမှာ ငွေသားစုစုပေါင်း ကျပ် ၄၆,၆၈၂ သန်းဖြစ်ပြီး ပြည်တွင်းချေးငွေကျပ် ၇,၀၀၀ သန်းအပါအဝင်ပါသည်။ ရင်းနှီးမြှုပ်နှံမှုထည့်ဝင်ငွေ အမျိုးအစားမှာ တစ်ဖက်ပါအတိုင်းဖြစ်ပါသည်-

| စဉ် | ထည့်ဝင်မှုအမျိုးအစား | ကျပ် (သန်း) |
|---|---|---|
| (က) | ငွေပမာဏ | ၁၂၃၉၅.၀၀ |
| (ခ) | ဆောက်လုပ်ရေးလုပ်ငန်းသုံးပစ္စည်း | ၁၂၁၈၁.၀၀ |
| (ဂ) | စက်ပစ္စည်းကရိယာတန်ဆာပလာ | ၄၂၄.၀၀ |
| (ဃ) | ပြည်တွင်းချေးငွေ | ၇၀၀၀.၀၀ |
| (င) | ပြန်လည်ရင်းနှီးမြှုပ်နှံငွေ | ၁၄၆၈၂.၀၀ |
| | **စုစုပေါင်း** | **၄၆၆၈၂.၀၀** |

၅။ လုပ်ငန်းဆောင်ရွက်ရန် ပြည်တွင်းမှ ဝန်ထမ်း (၄၇)ဦး ခန့်ထားမည် ဖြစ်ကြောင်း တင်ပြထားပါသည်။ တစ်လလျှင် ပြည်တွင်းလုပ်သားတစ်ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ် ၁၂၀,၀၀၀နှင့် အမြင့်ဆုံး လစာမှာ ကျပ် ၄၀၀,၀၀၀ ဖြစ်ပါသည်။

၆။ အဆိုပြုလုပ်ငန်း၏ ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်မည့် အခြေအနေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| အမျိုးအစား | စုစုပေါင်း စတုရန်းပေ | တစ်စတုရန်းပေ ရောင်းချမည့်နှုန်း (ကျပ်) |
|---|---|---|
| Shop House | | |
| (က) 3 Storey | ၆၇၄၇ | ၇၀,၀၀၀ |
| (ခ) 4 Storey | ၈၈၀၆ | ၇၀,၀၀၀ |

| စဉ် | အမျိုးအစား | ရောင်းချ/ ငှားရမ်းမည့် အဆောက်အဦ (Unit) | တစ် Unit အကျယ်အဝန်း (စတုရန်းပေ) | လစဉ် တစ်စတုရန်းပေ ငှားရမ်း မည့်နှုန်း (ကျပ်) |
|---|---|---|---|---|
| (က) | Meat, Fish, Sea food & Kitchen ware Ground Market | ၁၁၉၀ | ၅၅ | ၁,၂၅၀ |
| (ခ) | Small Fruit whole sale market (Rent) | ၁၁၉၀ | ၅၅ | ၁,၂၅၀ |
| (ဂ) | Seasonal Fruit Market (small) whole sale market (Rent) | ၁၀၆၂ | ၅၅ | ၁,၂၅၀ |
| (ဃ) | Cold Store | ၁၅ | ၅၁၄၆၀ | ၅,၀၀၀ |
| (င) | Food Court (2 Storey) | ၃၀ | ၅၀၇၅၀ | ၇၅၀ |
| (စ) | Parking Fees | ၅၅၈ စီး | ၉၂၅ / car | ၁၅,၁၇၀,၄၀၀ |

၇။ လုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ်(၄ နှစ်မြောက်)တွင် ရရှိမည့်ဝင်ငွေနှင့်အသုံးစရိတ် ခန့်မှန်းခြေမှာ တစ်ဖက်ပါအတိုင်း ဖြစ်ပါသည် -

| စဥ် | အကြောင်းအရာ | ကျပ် (သန်း) |
|---|---|---|
| (က) | ဝင်ငွေ | ၅,၃၀၀.၉၉ |
| (ခ) | အသုံးစရိတ် | ၄၄၄၄.၃၉ |
| (ဂ) | အသားတင်အမြတ် | ၈၅၆.၆၀ |

၈။ နိုင်ငံတော်မှ ပုံမှန်နှစ် (၄ နှစ်မြောက်)တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ ဝင်ငွေခွန် ကျပ် ၂၈၅.၅၃ သန်း နှင့် ကုန်သွယ်လုပ်ငန်းခွန် ကျပ် ၂၆၅.၀၅ သန်း ရရှိမည်ဖြစ်ပါသည်။

၉။ ယင်းအဆိုပြုလုပ်ငန်းနှင့်စပ်လျဥ်း၍ သယံဇာတနှင့် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေး ဝန်ကြီးဌာန မှ သဘောထား မှတ်ချက်အား အောက်ပါအတိုင်း ပြန်ကြားထားပါသည်-

(က) အဆိုပြုလုပ်ငန်းများကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေး နှင့်ကျန်းမာရေးထိခိုက်မှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာ အချက်အလက်များကို ပြည့်စုံစွာ ဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် နည်းစနစ်များအား အသုံးပြုရန်နှင့် အဆိုပြုလွှာတွင် ဖော်ပြပါရှိသည့် လူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility - CSR) အတွက် အမြတ်ငွေ၏ ၂ % ကို အသုံးပြုခြင်းအပါအဝင် ဆောင်ရွက်ပေးသွားမည့် ကတိကဝတ်များအား တိတိကျကျ လိုက်နာအကောင်အထည်ဖော် ဆောင်ရွက်ရန်။

(ခ) အဆိုပြုလုပ်ငန်းနှင့်စပ်လျဥ်း၍ ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်း (Environmental Impact Assessment - EIA) ကို ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းအပိုဒ် (၄၉)၊ (၆၃)နှင့်အညီ ဆောင်ရွက်ရန်။

(ဂ) ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း အပိုဒ် (၄၅)၊ (၄၆)တို့အရ စီမံကိန်းအဆိုပြုသူသည် ပတ်ဝန်းကျင် ထိခိုက်မှုဆန်းစစ်ခြင်း လုပ်ငန်း (Environmental Impact Assessment - EIA) မစတင်မီ အဆိုပါ လုပ်ငန်းကို ဆောင်ရွက်မည့် တတိယပုဂ္ဂိုလ် (သို့မဟုတ်) အဖွဲ့အစည်းနှင့် စပ်လျဥ်း၍ သယံဇာတနှင့် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးဝန်ကြီးဌာန၏ ဆုံးဖြတ်ချက်ရယူရန်။

(ဃ) ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း အပိုဒ် ၄၇ မှအပိုဒ်၅၄ ထိ ဖော်ပြချက်အရ စီမံကိန်း အဆိုပြုသူသည် နယ်ပယ်အတိုင်းအတာသတ်မှတ်ခြင်း အစီရင်ခံစာနှင့် ဆောင်ရွက်မည့် လုပ်ငန်းတာဝန်များကို လမ်းညွှန်ချက်များနှင့်အညီ လေ့လာဆန်းစစ်ပြုစု၍ ပတ်ဝန်းကျင်ထိန်းသိမ်း ရေးဦးစီးဌာန၊ သယံဇာတနှင့်သဘာဝ ပတ်ဝန်းကျင် ထိန်းသိမ်းရေးဝန်ကြီးဌာနသို့ တင်ပြ အတည်ပြုချက်ရယူရန်။

(င) အတည်ပြုပြီးသော နယ်ပယ်အတိုင်းအတာ သတ်မှတ်ခြင်း အစီရင်ခံစာပါ အချက်များ အပေါ်အခြေခံ၍ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း အပိုဒ် (၆၃)ပါအချက်များနှင့်အညီ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း (EIA) ကို ဆောင်ရွက်ပြီးသယံဇာတနှင့်သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးဝန်ကြီးဌာနသို့ ရေးဆွဲတင်ပြရန်။

(စ) အထက်ပါ လေ့လာဆန်းစစ်မှုရလဒ်များကို အခြေခံ၍ လုပ်ငန်းများဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်နှင့် လူမှုရေးဆိုင်ရ ထိခိုက်မှုမဖြစ်စေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့် အစီအစဉ်၊ စွန့်ပစ်ပစ္စည်း/စွန့်ပစ်အရည် စီမံခန့်ခွဲမှုအစီအစဉ်၊စောင့်ကြပ်ကြည့်ရှုစစ်ဆေးမည့် အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့် ရန်ပုံငွေစသည်တို့ ပါဝင်သည့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ် ( Environmental Management Plan-EMP) ကို လုပ်ထုံးလုပ်နည်းပါ အချက်များနှင့်အညီ ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါ အတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်။

(ဆ) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများ၊အမျိုးသားပတ်ဝန်းကျင်ဆိုင်ရာ အရည်အသွေး (ထုတ်လွှတ်မှု) လမ်းညွှန်ချက်များနှင့် အညီလိုက်နာဆောင်ရွက်ရန်။ **နောက်ဆက်တွဲ-(က)**

**(ကုမ္ပဏီမှပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန၏ သဘောထားနှင့်အညီ (EIA&EMP) အစီရင်ခံစာတို့အား ရေးဆွဲသွားမည် ဖြစ်ကြောင်း ဝန်ခံကတိပြုထားပါသည်။**

၁၀။ ကျပ်ငွေအထောက်အထားအဖြစ် Myanmar Agro Exchange Public Co., Ltd အမည်ဖြင့် ဧရာဝတီဘဏ်တွင် (၃၁-၃-၂၀၁၇)ရက်စွဲဖြင့် လက်ကျန်ငွေကျပ် ၅၀၀,၃၈၉,၉၂၆.၆၄၊ Myanmar Agro Exchange Public Co., Ltd အမည်ဖြင့် ကမ္ဘောဇဘဏ်တွင် (၃၁-၅-၂၀၁၇) ရက်စွဲဖြင့် လက်ကျန်ငွေ အမေရိကန်ဒေါ်လာ ၆၃၉.၇၆ နှင့် ကျပ် ၁၆၈,၇၁၇,၁၄၉.၂၆၊ Myanmar Agro Exchange Public Co., Ltd အမည်ဖြင့် Myanmar Citizens Bankတွင် (၃၀-၄-၂၀၁၇) ရက်စွဲဖြင့် လက်ကျန်ငွေအမေရိကန်ဒေါ်လာ ၁၆,၅၀၀.၀၀ ရှိကြောင်း တင်ပြထားပါသည်။

၁၁။ ကုမ္ပဏီအနေဖြင့် လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင် ညစ်ညမ်းမှုနှင့် မီးဘေးအန္တရာယ်များ မဖြစ်ပွားစေရန်အတွက် လိုအပ်သော အစီအမံများ၊ ကြိုတင်ကာကွယ်မှုများ ပြုလုပ်ဆောင်ရွက်ထားမည် ဖြစ်ကြောင်းနှင့် ပတ်ဝန်းကျင် ညစ်ညမ်းမှု မဖြစ်ပွားစေရန် ဆောင်ရွက်မည်ဖြစ်ကြောင်းနှင့် ဤလုပ်ငန်းအား မြန်မာနိုင်ငံသားများသာ ပိုင်ဆိုင်သည့် လုပ်ငန်းဖြစ်ကြောင်း တင်ပြထားပါသည်။

၁၂။ အဆိုပြုလုပ်ငန်းအတွက် ကုမ္ပဏီမှ CSR အတွက် အသားတင်အမြတ်၏ (၂) ရာခိုင်နှုန်း သုံးစွဲမည်ဖြစ်ပြီး လုပ်ငန်းခွင် သာယာရေးနှင့်တ ဝန်ထမ်းများ သက်သာချောင်ချိရေး အစီအစဉ်များအားတင်ပြထားပါသည်။

၁၃။ လုပ်ငန်း ဆောင်ရွက်ရာတွင် နိုင်ငံတော်အစိုးရမှ ဖြန့်ဖြူးသော လျှပ်စစ်ဓါတ်အားကို အဓိကရယူသုံးစွဲမည်ဖြစ်သော်လည်း လျှပ်စစ်ဓါတ်အား လုံလောက်မှုမရှိပါက ကိုယ်ပိုင် မီးစက်ဖြင့် အသုံးပြုသွားမည်ဖြစ်ကြောင်း တင်ပြထားပါမည်။

၁၄။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၇၇ အရ အခွန် ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များ ခံစားခွင့်ပြုရန် တင်ပြထားပါသည်။

**စိစစ်တင်ပြချက်**

၁၅။ အဆိုပြုလုပ်ငန်းနှင့်စပ်လျဥ်း၍ အောက်ပါအတိုင်း စိစစ်တင်ပြအပ်ပါသည်-

(က) Myamay Agro Exchange Public Limited သည် နိုင်ငံတကာအဆင့်မီ ဟင်းသီးဟင်းရွက် ပန်းမန်လက်ကားဈေးသစ်ကြီး တည်ဆောက်ရေး စီမံကိန်းကို ဆောင်ရွက်ရန် တင်ဒါအောင်မြင်ခဲ့သည့် ဒဂုန်အင်တာနေရှင်နယ် ကုမ္ပဏီ လီမိတက်မှ တင်ဒါစည်းမျဥ်းစည်းကမ်းနှင့်ဖွဲ့စည်းထားသည့် အများပိုင်ကုမ္ပဏီ ဖြစ်ပါသည်။

(ခ) အဆိုပြုလုပ်ငန်းဆောင်ရွက်မည့် တင်ပြထားသော ရန်ကုန်မြို့တော်စည်ပင် သာယာရေးကော်မတီပိုင် မြေနေရာအတွက် ၂၂-၃-၂၀၁၆ နေ့တွင် စာချုပ်ဝင် နှစ်ဦးနှစ်ဖက် စာချုပ်ချုပ်ဆိုခဲ့ပြီး တည်ဆောက်ရေးလုပ်ငန်းများစတင် ဆောင်ရွက်နေပြီဖြစ်ပါသည်။

(ဂ) ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့၏ ၂၀၁၅ ခုနှစ် မတ်လ ၂၆ ရက်နေ့တွင် ကျင်းပပြုလုပ်သော အစည်းအဝေးအမှတ်စဥ်(၁၅/၂၀၁၅) အပိုဒ်(၆၄)အရ အဆင့်မြင့်လက်ကားဈေး(တညင်းကုန်း) တည်ဆောက်ရေးလုပ်ငန်းကို အကျိုးတူရင်းနှီးမြှုပ်နှံသူသည် တင်ဒါအောင်မြင်ကြောင်း လုပ်ငန်းသဘောတူစာချုပ်တွင် ဖော်ပြထားပါသည်။

(ဃ) လုပ်ငန်းအပိုင်း(၁)တွင် Shop House (၁၀၁) လုံး ထည့်သွင်းတည်ဆောက်ရန် လျာထားကြောင်း တင်ပြထားပြီး စုစုပေါင်း Shop House အရေအတွက်၏ ၂၀ % ကို ကုမ္ပဏီမှ ရန်ကုန်မြို့တော်စည်ပင် သာယာရေးကော်မတီသို့ လွှဲပြောင်းပေးအပ်ရမည်ဖြစ်ကြောင်း လုပ်ငန်းသဘောတူစာချုပ်တွင် ဖော်ပြထားပါသည်။

(င) အဆိုပါလုပ်ငန်းသည် ၂၀၁၇ ခုနှစ် ဧပြီလ ၁ ရက်နေ့တွင် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ထုတ်ပြန်သော အမိန့်ကြော်ငြာစာအမှတ်(၁၃/၂၀၁၇) အရ ဦးစားပေးမြှင့်တင်မည့် ရင်းနှီးမြှုပ်နှံမှုကဏ္ဍ သတ်မှတ်ခြင်းတွင် ပါဝင်ပါသည်။

(စ) အဆိုပြုလုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် အရပ်ဒေသသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှထုတ်ပြန်သော အမိန့်ကြော်ငြာစာအမှတ်(၁၀/၂၀၁၇)အရ ဖွံ့ဖြိုးမှုဇုန်(၃)တွင် အကြုံးဝင်ပါသဖြင့် ဝင်ငွေခွန်(၃)နှစ် ကင်းလွတ်ခံစားခွင့်ရရှိမည်ဖြစ်သည်။

(ဆ) တည်ဆောက်ရေးကာလအတွင်း ဝင်ငွေရရှိမှုအား ဝင်ငွေခွန်ဥပဒေနှင့်အညီ ဝင်ငွေခွန်ပေးဆောင်ရမည်ဖြစ်ပါသည်။

(ဇ) ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့် ဥပဒေရေးရာဌာနခွဲမှ ကော်မရှင်ခွင့်ပြုမိန့်နှင့် ဆုံးဖြတ်ချက်(မူကြမ်း)အား ဥပဒေနှင့်ညီညွတ်မှု ရှိကြောင်း စိစစ်ပြီးဖြစ်ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၆။ Myanmar Agro Exchange Public Ltd. မှ ရန်ကုန်မြို့တော် စည်ပင်သာယာရေးကော်မတီပိုင် ရန်ကုန်တိုင်းဒေသကြီး၊ အင်းစိန်မြို့နယ်၊ မြေတိုင်းရပ်ကွက် ၄၀၃၊ မြေကွက်အမှတ် ၃၄/ခ၊ ၃၄/ခ^၁၊ ၃၄/ခ^၂၊ တညင်းကုန်းရပ်ကွက်၊ ပုလဲလမ်းနှင့် ရွှေပြည်သာ တံတားလမ်းထောင့်ရှိ မြေ ဧရိယာ ၈၂.၇၈ ဧကတွင် လယ်ယာထွက်ကုန် လက်ကားစျေးကွက်ဆိုင်ရာ အခြေခံ အဆောက်အအုံများ တည်ထောင်ခြင်းလုပ်ငန်း အပိုင်း(၁)အား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုရန် အဆိုပြုချက် တင်ပြလာခြင်းအပေါ် ခွင့်ပြုမိန့်ထုတ်ပေးရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(အောင်နိုင်ဦး၊ အတွင်းရေးမှူး)

မိတ္တူကို

ရုံးလက်ခံ/မျှောစာတွဲ

ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့
ရန်ကုန်မြို့
စာအမှတ်၊ဝ၁၁/ MIC(OSS) /ဝ၁(၁၃၉၁၁၇)
ရက်စွဲ၊ ၂ဝ၁၇ ခုနှစ်၊ ဇွန်လ ၂၁ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **Myanmar Agro Exchange Public Ltd. မှ လယ်ယာထွက်ကုန် လက်ကားဈေးကွက်ဆိုင်ရာ အခြေခံအဆောက်အဦများ တည်ထောင်ခြင်းလုပ်ငန်းလုပ်ကိုင်ဆောင်ရွက်ခွင့်ပြုပါရန် ကိစ္စနှင့်စပ်လျဉ်း၍ သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၉-၆-၂ဝ၁၇ ရက်စွဲပါစာအမှတ်၊ မရက-၄/ မ-၁၅၈၂/၂ဝ၁၇ (၄၇၃)

၁။ Myanmar Agro Exchange Public Ltd. မှ ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီပိုင် ရန်ကုန်တိုင်းဒေသကြီး၊ အင်းစိန်မြို့နယ် တညင်းကုန်းရပ်ကွက်၊ ပုလဲလမ်းနှင့် ရွှေပြည်သာတံတားလမ်းထောင့်ရှိ မြေဧရိယာ ၈၂.၇၈ ဧက (၃,၃၄,၉၉၈.၇၄ စတုရန်းမီတာ) တွင် လယ်ယာထွက်ကုန်လက်ကားဈေးကွက်ဆိုင်ရာ အခြေခံအဆောက်အဦများ တည်ထောင်ခြင်းလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းနှင့်စပ်လျဉ်း၍ စိစစ်ပြီးသဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါ စုံစမ်းမေးမြန်းလာသော ရင်းနှီးမြှုပ်နှံမှုဆိုင်ရာ အဆိုပြုလွှာအား စိစစ်ရာတွင်အောက်ပါအချက်များကို လေ့လာတွေ့ရှိရပါသည် -

(က) ပေးပို့လွှာသောအဆိုပြုလွှာတွင်ရင်းနှီးမြှုပ်နှံမှုကာလမှာနှစ် (၅ဝ) ဖြစ်ပြီး၊ သက်တမ်းတိုး (၁ဝ)နှစ် (၂)ကြိမ်ဆောင်ရွက်မည်ဖြစ်ကာ တည်ဆောက်ရေးကာလမှာ (၂) နှစ်ဖြစ်ကြောင်း၊

(ခ) အဆိုပြုလုပ်ငန်းမြေဧရိယာ (၃,၃၄,၉၉၈.၇၄ စတုရန်းမီတာ) တွင် အကြီးစားပွဲရုံနှင့် လူနေဆိုင်ခန်း(၃) ထပ်အဆောက်အဦနှင့် (၄) ထပ်အဆောက်အဦ၊ သစ်သီးဝလံ၊ သစ်သီးမျိုးစုံရောင်းချရေးဆိုင်ခန်းများ၊ တောင်သူ/လက်လီရောင်းဝယ်သူများဈေးရုံ၊ ကုန်တင်ယာဉ်ရပ်နားစခန်း/ကုန်ပစ္စည်းတင်ချရန်နေရာ၊ လျှပ်စစ်ဓါတ်အားခွဲရုံ၊ အမှိုက်ဖိကြိတ်စွန့်ပစ်ရုံ၊ စက်သုံးဆီအရောင်းဆိုင်၊ ဇီဝဓါတ်ငွေ့လျှပ်စစ်ဓါတ်အားပေးရုံ၊ ရေစိုးသန့်စင်စက်ရုံနှင့် လုပ်ငန်းအတွက်လိုအပ်သည့် အဆောက်အဦများနှင့် အုပ်ချုပ်ရေးနှင့် စီမံခန့်ခွဲရေးအတွက် အသုံးပြုမည့်အဆောက်အဦများအပါအဝင် စုစုပေါင်းအဆောက်အဦ (၆၅၈) လုံးတည် ဆောက်ကာလုပ်ငန်းဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

(ဂ) အဆိုပြုလုပ်ငန်းမှထွက်ရှိသည့် အမှိုက်များကိုအမှိုက်ဖိကြိတ်စွန့်ပစ်ရုံ တည်ဆောက်၍ စွန့်ပစ်မည်ဖြစ်ပြီး စွန့်ပစ်အညစ်အကြေး/အမှိုက်မှ ဇီဝဓါတ်ငွေ့လျှပ်စစ်ဓါတ်အားစက်ရုံ တည်ဆောက်ကာ လျှပ်စစ်ဓါတ်အားထုတ်လုပ်နိုင်ရေး ဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

(ဃ) အဆိုပြုလုပ်ငန်းအတွက် ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီနှင့် Myanmar Agro Exchange Public Ltd. တို့အကြား ပန်းမန်လက်ကားဈေးကြီးတည်ဆောက်အ

ကောင်အထည်ဖော်ဆောင်ရွက်ရန်ချုပ်ဆိုထားသည့် သဘောတူစာချုပ် ဖော်ပြပါရှိပါကြောင်း၊

(ဃ) မီးဘေးကြိုတင်ကာကွယ်ရေးစီမံချက်၊ ဝန်ထမ်းသက်သာချောင်ချိရေး အစီအစဉ်များကို ဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

(င) လုပ်ငန်းမှ နှစ်စဉ်ရရှိလာမည့်အမြတ်ငွေ၏ (၂%) ခန့်ကို လူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility-CSR) လုပ်ငန်းများတွင် အသုံးပြုသွားမည် ဖြစ်ကြောင်း၊

(စ) သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်စပ်လျဉ်း၍ အဆိုပြုလုပ်ငန်းကြောင့် ပတ်ဝန်းကျင်ထိခိုက်မှုမရှိစေရန် ပတ်ဝန်းကျင်နှင့်လူမှုရေးဆိုင်ရာ ထိခိုက်မှုဆန်းစစ်ခြင်းကို National Engineering & Planning Services Co., Ltd. ဖြင့်ရေးဆွဲဆောင်ရွက်ပြီးဖြစ်ကြောင်း ဖော်ပြပါရှိပါသည်။

၃။ အဆိုပြုလုပ်ငန်း တည်ဆောက်လည်ပတ်ခြင်းနှင့်စပ်လျဉ်း၍ အောက်ဖော်ပြပါပတ်ဝန်းကျင်ဆိုင်ရာ ထိခိုက်မှုများဖြစ်ပေါ်လာနိုင်ကြောင်း လေ့လာသုံးသပ်ရပါသည် -

(က) Myanmar Agro Exchange Public Ltd. မှ လယ်ယာထွက်ကုန်လက်ကား ဈေးကွက်ဆိုင်ရာအခြေခံအဆောက်အဦ တည်ဆောက်ခြင်းလုပ်ငန်းများ ဆောင်ရွက်ရာတွင် မြေသားများ ပြုပြင်ဖော်ထုတ်ခြင်းကြောင့် ထွက်ရှိလာသည့် အမှုန်အမွှားများ၊ ဖုန်မှုန့်များ၊ လုပ်ငန်းသုံးစက်နှင့် ယာဉ်ယန္တရားများ၏ ဆူညံသံများနှင့် အမဲဆီ၊ လောင်စာဆီ၊ Engine Oil စက်ကျဆီစသည့် ကုန်ကြမ်းဆီများ၊ စွန့်ပစ်အဆီ/ အရည်/ အစိုင်အခဲများကြောင့် အသံညစ်ညမ်းခြင်း၊ စွန့်ပစ်ပစ္စည်းများကြောင့် ရေထု၊ လေထု၊ မြေထုညစ်ညမ်းမှုများ ဖြစ်ပေါ်စေနိုင်ခြင်း၊

(ခ) အဆိုပြုလုပ်ငန်းတွင်ရောင်းချမည့် သစ်သီးဝလံ၊ ဟင်းသီးဟင်းရွက်နှင့်ပန်းမန်များမှထွက်ရှိလာမည့် စွန့်ပစ်အမှိုက်များကို စနစ်တကျစီမံခန့်ခွဲမှုမရှိပါက ပတ်ဝန်းကျင်ညစ်ညမ်းမှုဖြစ်စေနိုင်ခြင်းနှင့် အနံ့အသက်များကြောင့် ပတ်ဝန်းကျင်ရှိပြည်သူများကို အနှောင့်အယှက်ဖြစ်စေနိုင်ခြင်း၊

(ဂ) အဆိုပြုလုပ်ငန်းတွင်ပါဝင်သည့် စက်သုံးဆီအရောင်းဆိုင်လုပ်ငန်းကို သတ်မှတ်စည်းမျဉ်းစည်းကမ်းများနှင့် အညီဆောင်ရွက်မှုမရှိပါက မီးဘေးအန္တရာယ်ဖြစ်ပေါ်စေနိုင်ခြင်း၊

(ဃ) အဆိုပြုလုပ်ငန်းရှိ တည်ခိုခန်းများ၊ လူနေအဆောက်အဦများ၊ ဈေးဆိုင်ခန်းများနှင့်အလုပ်ရုံများမှ စွန့်ပစ်ပစ္စည်းများ၊ အရည်များနှင့် မိလ္လာအညစ်အကြေးများကို စနစ်တကျစွန့်ပစ်မှုမရှိပါက ပတ်ဝန်းကျင်ရှိ လေထု၊ မြေထု ညစ်ညမ်းမှုဖြစ်ပေါ်စေနိုင်ခြင်းစသည့် ပတ်ဝန်းကျင်ဆိုင်ရာ ထိခိုက်မှုပြဿနာများ ဖြစ်ပေါ်လာနိုင်ပါသည်။

၄။ သို့ဖြစ်ပါ၍ Myanmar Agro Exchange Public Ltd. မှ လယ်ယာထွက်ကုန်လက်ကားဈေးကွက်ဆိုင်ရာ အခြေခံအဆောက်အဦများ တည်ထောင်ခြင်းလုပ်ငန်း ဆောင်ရွက်ခြင်းနှင့်စပ်လျဉ်း၍ပတ်

ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာ ဆောင်ရွက်ရမည့်လုပ်ငန်းများကို အောက်ပါအတိုင်းသဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည် -

(က) အဆိုပြုလုပ်ငန်းများကြောင့်ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့်ကျန်းမာရေး ထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာအချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် နည်းစနစ်များအားအသုံးပြုရန်နှင့် အဆိုပြုလွှာတွင်ဖော်ပြထားသည့် လူမှုရေးဆိုင်ရာ တာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility-CSR) အတွက်အသားတင် အမြတ်ငွေ၏ ၂% ကိုအသုံးပြုခြင်းအပါအဝင် ဆောင်ရွက်ပေးသွားမည့် ကတိကဝတ်များကိုတိတိကျကျ လိုက်နာအကောင်အထည်ဖော် ဆောင်ရွက်ရန်၊

(ခ) အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ **ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း** (Environmental Impact Assessment-EIA) ကို ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းအပိုဒ် (၄၉)၊ (၆၃) နှင့်အညီဆောင်ရွက်ရန်၊

(ဂ) ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်း အပိုဒ် ၄၅၊ ၄၆ တို့အရစီမံကိန်းအဆိုပြုသူသည် ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းလုပ်ငန်း (Environmental Impact Assessment-EIA) မစတင်မီအဆိုပါလုပ်ငန်းကို ဆောင်ရွက်မည့်တတိယပုဂ္ဂိုလ် (သို့မဟုတ်) အဖွဲ့အစည်းနှင့်စပ်လျဉ်း၍ သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန၏ ဆုံးဖြတ်ချက်ရယူရန်၊

(ဃ) ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်း အပိုဒ် ၄၇ မှ အပိုဒ် ၅၄ထိ ဖော်ပြချက်အရ စီမံကိန်းအဆိုပြုသူသည် နယ်ပယ်အတိုင်းအတာ သတ်မှတ်ခြင်းအစီရင်ခံစာနှင့်ဆောင်ရွက်မည့်လုပ်ငန်းတာဝန်များကို လမ်းညွှန်ချက်များနှင့်အညီ လေ့လာဆန်းစစ်ပြုစု၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာနသို့ တင်ပြအတည်ပြုချက်ရယူရန်၊

(င) အတည်ပြုပြီးသော နယ်ပယ်အတိုင်းအတာသတ်မှတ်ခြင်း အစီရင်ခံစာပါအချက်များအပေါ်အခြေခံ၍ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း အပိုဒ် (၆၃) ပါအချက်များနှင့်အညီ **ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းအစီရင်ခံစာ** (EIA) ကို ဆောင်ရွက်ပြီး သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာနသို့ ရေးဆွဲတင်ပြရန်၊

(စ) အထက်ပါလေ့လာဆန်းစစ်မှု ရလဒ်များကိုအခြေခံ၍ ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှုမဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့်အစီအစဉ် စွန့်ပစ်ပစ္စည်း/စွန့်ပစ်အရည် စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြပ်ကြည့်ရှုစစ်ဆေးမည့်အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးစေရေး ဆောင်ရွက်မည့်လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေစသည်တို့ပါဝင်သည့် **ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ်** (Environmental Management Plan-EMP) ကို ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း

ဆိုင်ရာလုပ်ထုံးလုပ်နည်းပါ အချက်အလက်များနှင့်အညီ ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါ အတိုင်းအကောင်အထည်ဖော် ဆောင်ရွက်ရန်။

(ဆ) ပြဋ္ဌာန်းထုတ်ပြန်ထားပြီးဖြစ်သောပတ်ဝန်းကျင်ထိန်းသိမ်းရေး ဥပဒေ၊ နည်းဥပဒေ၊ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း၊ အမျိုးသားပတ်ဝန်းကျင်ဆိုင်ရာ အရည်အသွေး (ထုတ်လွှတ်မှု) လမ်းညွှန်ချက်များတွင်ဖော်ပြပါရှိသည့် လိုက်နာဆောင်ရွက်ရမည့်အချက်များ၊ လုပ်ထုံးလုပ်နည်းများ၊ လမ်းညွှန်ချက်များနှင့်အညီ လိုက်နာဆောင်ရွက်ရန်နှင့် တင်ပြရမည့်အစီအစဉ်အလိုက် လိုအပ်သည့်ပုံစံများဖြည့်စွက်၍တစ်ပါတည်း တင်ပြရန်၊

(ဇ) သက်ဆိုင်ရာ တိုင်းဒေသကြီးအစိုးရအဖွဲ့၏ ကြီးကြပ်ကွပ်ကဲမှုဖြင့် လုပ်ငန်းဆောင်ရွက်မည့် နေရာဒေသတွင် နေထိုင်သော ဒေသခံပြည်သူများ၏ဆန္ဒနှင့် သဘောထားများကိုလည်း ရယူ ဆောင်ရွက်ရန်၊

(ဈ) အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းလုပ်ငန်း (EIA) ကို တင်ဆောင်ရွက်ပြီးဖြစ်ပါက ဝန်ကြီးဌာနသို့ လုပ်ထုံးလုပ်နည်းများနှင့်အညီ ပြန်လည်အစီရင်ခံတင်ပြ၍ အတည်ပြုချက်ရယူနိုင်ရေး စီစဉ်ဆောင်ရွက်ရန်၊

၅/၆/၂၀၁၇

(အောင်သူကျော်)
ဒုတိယညွှန်ကြားရေးမှူး
အဖွဲ့ခေါင်းဆောင်
ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့

**မိတ္တူကို**

၁၂/၆/၁၇

ပြည်ထောင်စုဝန်ကြီးရုံး
သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့သစ်လုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး
ရုံးလက်ခံ

ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံတော်အတွင်း

ရင်းနှီးမြှုပ်နှံမှုပြုလုပ်ရန် ရင်းနှီးမြှုပ်နှံလိုသူ၏

ဆောင်ရွက်ရန်အဆိုပြုချက်

"မြန်မာအက်ဂရိုအိတ်(စ်)ချိန်းပတ်ဘလစ်လီမိတက်"

# PROPOSAL OF THE INVESTOR
# FOR MAKING MYANMAR INVESTMENT
# IN THE REPUBLIC OF THE UNION OF MYANMAR

# "MYANMAR AGRO EXCHANGE PUBLIC LIMITED"

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
ရန်ကုန်တိုင်းဒေသကြီးအစိုးရ
ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီ
မြို့တော်ခန်းမ၊ ရန်ကုန်မြို့

စာအမှတ်၊ ၁၀၉ / ၀၁ ( ၂၂၈၉ ) / စသက
ရက် စွဲ ၊ ၂၀၁၇ ခုနှစ် ဇွန်လ ၁၅ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **တညင်းကုန်း သစ်သီးဝလံ၊ ဟင်းသီးဟင်းရွက်၊ ပန်းမန်လက်ကားဈေး တည်ဆောက်ပြီး ဈေးစီမံခန့်ခွဲခြင်း ဝန်ဆောင်လုပ်ငန်းအတွက် အဆိုပြုချက် ပြင်ဆင်တင်ပြခြင်း**

ရည်ညွှန်းချက် ။ (၁) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊ အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ၁၇-၅-၂၀၁၇ ရက်စွဲပါစာအမှတ်၊ မရက-၄/မ-၁၅၈၂/၂၀၁၇(၄၀၄)

(၂) Myanmar Agro Exchange Public Ltd (MAEX) ၏ ၃၀-၅-၂၀၁၇ ရက်စွဲပါစာအမှတ်၊ ၀၅၁/MAEX-HO/၂၀၁၇

၁။ ရန်ကုန်တိုင်း၊ အင်းစိန်မြို့နယ်၊ တညင်းကုန်း သစ်သီးဝလံ၊ ဟင်းသီးဟင်းရွက်၊ ပန်းမန် လက်ကားဈေး တည်ဆောက်ခြင်းစီမံကိန်းကို ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီနှင့် Myanmar Agro Exchange Public Ltd (MAEX) တို့ PPP စနစ်ဖြင့် လုပ်ငန်းသဘောတူစာချုပ်ချုပ်ဆို၍ ဆောင်ရွက်လျက်ရှိပါသည်။ Myanmar Agro Exchange Public Ltd (MAEX) မှ တညင်းကုန်းဈေး တည်ဆောက်ပြီး ဈေးစီမံခန့်ခွဲခြင်း ဝန်ဆောင်လုပ်ငန်းဆောင်ရွက်ခွင့်ပြုရန်အတွက် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုလွှာတင်ပြခဲ့ပါသည်။

၂။ ယင်းအဆိုပြုလွှာအပေါ် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊ အဆိုပြုချက်စိစစ်ရေးအဖွဲ့မှ ၂၀၁၇ ခုနှစ်၊ မေလ ၈ ရက်နေ့တွင် ခေါ်ယူတွေ့ဆုံရှင်းလင်းခဲ့ပါသည်။ ယင်းဆွေးနွေးပွဲ၌ အောက်ပါအချက်(၄)ချက်အား ပြင်ဆင်၍ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုနည်းဥပဒေ ၄၄ (က) (ခ) နှင့်အညီ ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီ မှတစ်ဆင့် ပြန်လည်တင်ပြရန် ရည်ညွှန်း(၁)ပါစာဖြင့် အကြောင်းကြားခဲ့ခြင်းကို ကုမ္ပဏီမှ ပြည့်စုံစွာပြန်လည်ပြုစု၍ ရည်ညွှန်း(၂)ပါစာဖြင့် တင်ပြလာပါသည် -

(က) လုပ်ငန်းအမျိုးအစား ပြင်ဆင်တင်ပြရန်။

(ခ) ရင်းနှီးမြှုပ်နှံမှု လုပ်ငန်းအပိုင်း(၁)အတွက်သာ အဆိုပြုချက်ကို ပြင်ဆင်တင်ပြရန်။

(ဂ) တည်ဆောက်ရေးကာလနှင့် မတည်ငွေရင်းတို့ကို ပြင်ဆင်တင်ပြရန်။

(ဃ) စက်ပစ္စည်း စာရင်းအား Phase တစ်ခုချင်းစီအလိုက် ခွဲခြားတင်ပြရန်နှင့် ပြည်တွင်းဝယ် နှင့် ပြည်ပဝယ် စာရင်း သီးခြားစီ ဖော်ပြရန်။

၃။ သို့ဖြစ်ပါ၍ တည်ငင်းကုန်း သစ်သီးဝလံ၊ ဟင်းသီးဟင်းရွက်၊ ပန်းမန်လက်ကားဈေး တည်ဆောက်ပြီး ဈေးစီမံခန့်ခွဲခြင်း ဝန်ဆောင်လုပ်ငန်းအတွက် အဆိုပြုချက်အား Myanmar Agro Exchange Public Ltd (MAEX)မှ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြခဲ့မှုအပေါ် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် အဆိုပြုချက်စိစစ်ရေးအဖွဲ့မှ စိစစ်ဆုံးဖြတ်ခဲ့သည့် အချက်များအား သက်ဆိုင်ရာကုမ္ပဏီမှ ပြည့်စုံစွာပြန်လည်ပြုစုပြီးဖြစ်ပါသဖြင့် နောက်ဆက်တွဲပါ အတိုင်း ပူးတွဲပေးပို့တင်ပြအပ်ပါသည်။

ဉာဏ်လင်း
၀၅/၆/၂၀၁၇

ဥက္ကဋ္ဌ (ကိုယ်စား)
( ဉာဏ်လင်းစိုး၊ ရုံးအဖွဲ့မှူး )

မိတ္တူကို
မျှောစာတွဲ
ရုံးလက်ခံ

MYANMAR AGRO EXCHANGE PUBLIC LIMITED.

No.262-264, Pyay Road, Dagon Centre (1), Block (A), 4th Floor, Sanchaung Township, Yangon, Myanmar.

Tel : 95-1-503928, 503929, 514226 Fax : 95-1-516616

စာအမှတ် ၄၅၂ /MAEX-HO/၂၀၁၇

နေ့စွဲ၊ ၂၀၁၇ ခုနှစ် မေလ ( ၃၀ )ရက်

သို့

ဌာနမှူး (ဈေးများဌာန)

ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီ

အကြောင်းအရာ။ ။Myanmar Agro Exchange Public Ltd (MAEX)၏ MIC အဆိုပြုချက် စိစစ်ရေးအဖွဲ့၏ ညွှန်ကြားချက်အရ MIC အဆိုပြုချက်အား ပြင်ဆင်တင်ပြခြင်း။

ရည်ညွှန်းချက်။ ။မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၇.၅.၂၀၁၇ နေ့စွဲပါ စာအမှတ် မရက-၄/မ-၁၅၈၂/၂၀၁၇(၄၀၄)။

Myanmar Agro Exchange Public Ltd (MAEX)သည် ရန်ကုန်တိုင်း၊ အင်းစိန်မြို့နယ်၊ တညင်းကုန်း သစ်သီးဝလံ၊ ဟင်းသီးဟင်းရွက်၊ ပန်းမန်လက်ကားဈေးတည်ဆောက်ပြီး၊ ဈေးစီမံခန့်ခွဲ ခြင်း ဝန်ဆောင်မှုလုပ်ငန်းဆောင်ရွက်ခွင့်ပြုရန်အတွက် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုလွှာတင်ပြခဲ့ပါသည်။

ယင်းအဆိုပြုလွှာအပေါ် အဆိုပြုချက်စိစစ်ရေးအဖွဲ့မှ ၂၀၁၇ ခုနှစ် မေလ (၈)ရက်နေ့တွင် တွေ့ဆုံ ရှင်းလင်းခဲ့ပါသည်။

၂၀၁၇ခုနှစ်မေလ(၈)ရက်နေ့တွင် ကျင်းပသော အဆိုပြုချက်စိစစ်ရေးအဖွဲ့၏(၁၃/၂၀၁၇) ကြိမ်မြောက်အစည်းအဝေးဆုံးဖြတ်ချက်ပါအချက်များအားပြင်ဆင်ပြီး ပြန်လည် တင်ပြရန် အတွက် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုနည်းဥပဒေ ၄၄(က)၊(ခ)နှင့်အညီ ရန်ကုန်မြို့တော်စည်ပင်သာယာရေး ကော်မတီ မှတဆင့် ပြန်လည်တင်ပြရန် ရည်ညွှန်းချက်ပါစာ ဖြင့် အကြောင်းကြား လာပါသည်။

သို့ဖြစ်ပါ၍ လိုအပ်ချက်များပြင်ဆင်ပြီးအဆိုပြုလွှာများအား ရန်ကုန်မြို့တော်စည်ပင် သာယာရေးကော်မတီ မှတဆင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြပေးနိုင်ပါရန် ပူးတွဲပါ အတိုင်းတင်ပြအပ်ပါ သည်။

လေးစားစွာဖြင့်

ဝင်းအောင်

ဥက္ကဋ္ဌ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ရန်ကုန်မြို့
အဆိုပြုချက်စိစစ်ရေးအဖွဲ့

စာအမှတ်၊ မရက- ၄/ မ-၁၅၈၂ / ၂၀၁၇ ( ၄၀၄ )
ရက်စွဲ၊ ၂၀၁၇ ခုနှစ် မေ လ ၁၈ ရက်

အကြောင်းအရာ။ အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ (၁၃/၂၀၁၇)အစည်းအဝေး ဆုံးဖြတ်ချက်အား အကြောင်းကြားခြင်းကိစ္စ

ရည်ညွှန်းချက် ။ Myanmar Agro Exchange Public Ltd. ၏ (၅- ၅-၂၀၁၇) ရက်စွဲပါ တင်ပြစာ

၁။ Myanmar Agro Exchange Public Ltd. မှ ရန်ကုန်မြို့တော်စည်ပင် သာယာရေး ကော်မတီပိုင် ရန်ကုန်တိုင်းဒေသကြီး၊ အင်းစိန်မြို့နယ် တညင်းကုန်းရပ်ကွက်၊ ပုလဲလမ်းနှင့် ရွှေပြည်သာ တံတားလမ်းထောင့်ရှိ မြေဧရိယာ ၈၂.၇၈ ဧကတွင် သစ်သီးဝလံ၊ ဟင်းသီးဟင်းရွက်နှင့် ပန်းမန် လက်ကားဈေး တည်ဆောက်ပြီး ဈေးစီမံခန့်ခွဲခြင်း ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးဝင်းအောင် မှ အဆိုပြုချက် တင်ပြလာပါသည်။

၂။ အဆိုပြုချက်နှင့် စပ်လျဉ်း၍ ၂၀၁၇ ခုနှစ်၊ မေလ ၈ ရက်နေ့တွင် ကျင်းပသော အဆိုပြုချက် စိစစ်ရေးအဖွဲ့၏ (၁၃/၂၀၁၇) ကြိမ်မြောက် အစည်းအဝေးသို့တင်ပြခဲ့ရာ အစည်းအဝေးမှ အောက်ပါ အတိုင်း ဆုံးဖြတ်ခဲ့ပါသည်-

(က) လုပ်ငန်းအမျိုးအစား ပြင်ဆင်တင်ပြရန်။
(ခ) ရင်းနှီးမြှုပ်နှံမှု လုပ်ငန်းအပိုင်း (၁) အတွက်သာ အဆိုပြုချက်ကို ပြင်ဆင်တင်ပြရန်။
(ဂ) တည်ဆောက်ရေးကာလနှင့် မတည်ငွေရင်းတို့ကို ပြင်ဆင်တင်ပြရန်။
(ဃ) စက်ပစ္စည်းစာရင်းအား Phase တစ်ခုချင်းစီအလိုက် ခွဲခြားတင်ပြရန်နှင့် ပြည်တွင်း ဝယ်နှင့် ပြည်ပဝယ် စာရင်း သီးခြားစီ ဖော်ပြရန်။

၃။ သို့ဖြစ်ပါ၍ စာပိုဒ်(၂)ပါ အစည်းအဝေးဆုံးဖြတ်ချက်နှင့်အညီ အဆိုပြုချက်အား ပြင်ဆင်၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု နည်းဥပဒေ ၄၄ (က)၊(ခ) နှင့်အညီ ရန်ကုန်မြို့တော်စည်ပင်သာယာရေး ကော်မတီမှတစ်ဆင့် ပြန်လည်တင်ပြရန် အကြောင်းကြားပါသည်။

(အောင်နိုင်ဦး)
အဖွဲ့ခေါင်းဆောင်

Myanmar Agro Exchange Public Ltd.
မိတ္တူကို
ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီ
ရုံးလက်ခံ/ မျှောစာတွဲ

Myanmar Agro PATReply

# MYANMAR AGRO EXCHANGE PUBLIC LIMITED.

No.262-264, Pyay Road, Dagon Centre (1), Block (A), 4th Floor, Sanchaung Township, Yangon, Myanmar.

Tel : 95-1-503928, 503929, 514226 Fax : 95-1-516616


စာအမှတ်၊ ၀၆၅ /MAEX-HO/ ၂၀၁၇
နေ့စွဲ၊ ၂၀၁၇ ခုနှစ်၊ ဇူလိုင်လ၊ (၆)ရက်။

သို့

ညွှန်ကြားရေးမှူးချုပ်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့။

အကြောင်းအရာ။ ။ မြန်မာအက်ဂရိုအိတ်(စ်)ချိန်းပတ်ဘလစ်လီမိတက် ၏ အကြီးစားပွဲရုံ တည်ဆောက်ရန်လျာထားမှုနှင့် ပြည်တွင်းချေးငွေအား တင်ပြခြင်း။

ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီ၏ သဘောတူညီချက်ဖြင့် တည်းကုန်းလက်ကားဈေးကြီးတည်ထောင်ပြီး ဈေးစီမံကိန်း အကောင်အထည်ဖော်ရာတွင် အကြီးစားပွဲရုံ ရုံးခန်းအဆောက်အဦးများ တည်ဆောက်ခြင်းနှင့် လက်ကားဈေးရုံကြီးများ တည်ဆောက်ခြင်းစသည်တို့ ပါဝင်ပါသည်။ အကြီးစားပွဲရုံအဆောက်အဦးများကိုရောင်းချပြီး လက်ကားဈေးရုံကြီးများကို ငှါးရမ်းမည်ဖြစ်ပါသည်။

လုပ်ငန်းစီမံကိန်းကာလနှစ်(၅၀+၁၀+၁၀)တွင် Phase-1 အကောင်အထည်ဖော်ခြင်း ပြီးစီးမှုမှ ရရှိမည့်ဝင်ငွေများမှာ လက်ကားဈေးရုံကြီးများငှါးရမ်းခြင်း ဝင်ငွေမှာ စုစုပေါင်းဝင်ငွေ၏ ၈၉%၊ အကြီးစားပွဲရုံအဆောက်အဦးရောင်းချခြင်းမှ ဝင်ငွေမှာ စုစုပေါင်းဝင်ငွေ၏ ၈%၊ ယာဉ်ရပ်နားမှု ကောက်ခံခြင်းဝင်ငွေမှာ စုစုပေါင်းဝင်ငွေ၏ ၃% အသီးသီး ဖြစ်ပါသည်။

အကြီးစားပွဲရုံ အလုံး(၂၀၀)ကို တည်ဆောက်မည်ဖြစ်ပြီး၊ Phase-1 တွင် (၁၀၁)လုံး၊ Phase-2 တွင် (၉၉)လုံး တည်ဆောက်ရန် လျာထားပါသည်။

စီမံကိန်းအတွက် မူလ မတည်ငွေရင်း ကျပ်သန်း(၂၅,၀၀၀)အပြင် လုပ်ငန်းတွင်ရင်းနှီးမြှုပ်နှံမှုအတွက် ငွေသားလိုအပ်ချက်ရှိလာပါက ပြည်တွင်းဘဏ်များမှ ငွေကျပ်သန်း(၇,၀၀၀)ကို မြန်မာကျပ်ငွေဖြင့် ချေးယူရန်လျာထားပါသည်။

လေးစားစွာဖြင့်

Managing Director
Myanmar Agro Exchange Public Limited

**Myanmar Agro Exchange Public Limited**
**Danyine Gone wholesale market project**
**Investment Plan For Phase-1**
**Expressed in Kyat-million** Annex - 1.1

| Sr. No. | Particular | Amount |
|---|---|---|
| 1 | Currency | 12,395 |
| 2 | Construction Material | 12,181 |
| 3 | Property and Equipment | 424 |
| 4 | Loan | 7,000 |
| 5 | Reinvestment Amount | 14,682 |
| | Total | 46,682 |

**MYANMAR AGRO EXCHANGE PUBLIC LTD**

**SALARY**

**In kyats Million**

| SR No | Designation | Year 1 | | | Year 2 | | | Year 3 | | | Year 4 | | |
|---|---|---|---|---|---|---|---|---|---|---|---|---|---|
| | | No of Employee | Salary per month | Annual Salary | No of Employee | Salary per month | Annual Salary | No of Employee | Salary per month | Annual Salary | No of Employee | Salary per month | Annual Salary |
| 1 | Manager | 1 | 400,000 | 4.80 | 1 | 400,000 | 4.80 | 1 | 400,000 | 4.80 | 1 | 400,000 | 4.80 |
| 2 | Assistant Manager | 1 | 350,000 | 4.20 | 2 | 350,000 | 8.40 | 2 | 350,000 | 8.40 | 2 | 350,000 | 8.40 |
| 3 | Senior Accountant | 1 | 350,000 | 4.20 | 1 | 350,000 | 4.20 | 1 | 350,000 | 4.20 | 1 | 350,000 | 4.20 |
| 4 | Accountant | 1 | 200,000 | 2.40 | 5 | 200,000 | 12.00 | 5 | 200,000 | 12.00 | 5 | 200,000 | 12.00 |
| 5 | Cashier | 1 | 150,000 | 1.80 | 5 | 150,000 | 9.00 | 5 | 150,000 | 9.00 | 5 | 150,000 | 9.00 |
| 6 | Office Staff | 1 | 150,000 | 1.80 | 5 | 150,000 | 9.00 | 5 | 150,000 | 9.00 | 5 | 150,000 | 9.00 |
| 7 | Supervisor | 1 | 150,000 | 1.80 | 10 | 150,000 | 18.00 | 10 | 150,000 | 18.00 | 10 | 150,000 | 18.00 |
| 8 | Assis Supervisor | 3 | 130,000 | 4.68 | 15 | 130,000 | 23.40 | 15 | 130,000 | 23.40 | 15 | 130,000 | 23.40 |
| 9 | Engineer | 1 | 200,000 | 2.40 | 2 | 200,000 | 4.80 | 2 | 200,000 | 4.80 | 2 | 200,000 | 4.80 |
| 10 | Assistant Engineer | 2 | 150,000 | 3.60 | 6 | 150,000 | 10.80 | 6 | 150,000 | 10.80 | 6 | 150,000 | 10.80 |
| 11 | Gate Clerk | 5 | 120,000 | 7.20 | 16 | 120,000 | 23.04 | 30 | 120,000 | 43.20 | 30 | 120,000 | 43.20 |
| 12 | Collector | 4 | 120,000 | 5.76 | 10 | 120,000 | 14.40 | 36 | 120,000 | 51.84 | 36 | 120,000 | 51.84 |
| 13 | Cleanner | 25 | 120,000 | 36.00 | 70 | 120,000 | 100.80 | 70 | 120,000 | 100.80 | 70 | 120,000 | 100.80 |
| **TOTAL** | | **47** | | **80.64** | **148** | | **242.64** | **188** | | **300.24** | **188** | | **300.24** |

| SR No | Designation | Year 5 | | | Year 6 | | | Year 7 | | | Year 8 | | |
|---|---|---|---|---|---|---|---|---|---|---|---|---|---|
| | | No of Employee | Salary per month | Annual Salary | No of Employee | Salary per month | Annual Salary | No of Employee | Salary per month | Annual Salary | No of Employee | Salary per month | Annual Salary |
| 1 | Manager | 1 | 400,000 | 4.80 | 1 | 400,000 | 4.80 | 1 | 400,000 | 4.80 | 1 | 400,000 | 4.80 |
| 2 | Assistant Manager | 2 | 350,000 | 8.40 | 2 | 350,000 | 8.40 | 2 | 350,000 | 8.40 | 2 | 350,000 | 8.40 |
| 3 | Senior Accountant | 1 | 350,000 | 4.20 | 1 | 350,000 | 4.20 | 1 | 350,000 | 4.20 | 1 | 350,000 | 4.20 |
| 4 | Accountant | 5 | 200,000 | 12.00 | 5 | 200,000 | 12.00 | 5 | 200,000 | 12.00 | 5 | 200,000 | 12.00 |
| 5 | Cashier | 5 | 150,000 | 9.00 | 5 | 150,000 | 9.00 | 5 | 150,000 | 9.00 | 5 | 150,000 | 9.00 |
| 6 | Office Staff | 5 | 150,000 | 9.00 | 5 | 150,000 | 9.00 | 5 | 150,000 | 9.00 | 5 | 150,000 | 9.00 |
| 7 | Supervisor | 10 | 150,000 | 18.00 | 10 | 150,000 | 18.00 | 10 | 150,000 | 18.00 | 10 | 150,000 | 18.00 |
| 8 | Assis Supervisor | 15 | 130,000 | 23.40 | 15 | 130,000 | 23.40 | 15 | 130,000 | 23.40 | 15 | 130,000 | 23.40 |
| 9 | Engineer | 2 | 200,000 | 4.80 | 2 | 200,000 | 4.80 | 2 | 200,000 | 4.80 | 2 | 200,000 | 4.80 |
| 10 | Assistant Engineer | 6 | 150,000 | 10.80 | 6 | 150,000 | 10.80 | 6 | 150,000 | 10.80 | 6 | 150,000 | 10.80 |
| 11 | Gate Clerk | 30 | 120,000 | 43.20 | 30 | 120,000 | 43.20 | 30 | 120,000 | 43.20 | 30 | 120,000 | 43.20 |
| 12 | Collector | 36 | 120,000 | 51.84 | 36 | 120,000 | 51.84 | 36 | 120,000 | 51.84 | 36 | 120,000 | 51.84 |
| 13 | Cleanner | 70 | 120,000 | 100.80 | 70 | 120,000 | 100.80 | 70 | 120,000 | 100.80 | 70 | 120,000 | 100.80 |
| **TOTAL** | | **188** | | **300** | **188** | | **300** | **188** | | **300** | **188** | | **300** |

Annex - 5

| SR No | Designation | Year 9 | | | Year 10 and onwards | | |
|---|---|---|---|---|---|---|---|
| | | No of Employee | Salary per month | Annual Salary | No of Employee | Salary per month | Annual Salary |
| 1 | Manager | 1 | 400,000 | 4.80 | 1 | 400,000 | 4.80 |
| 2 | Assistant Manager | 2 | 350,000 | 8.40 | 2 | 350,000 | 8.40 |
| 3 | Senior Accountant | 1 | 350,000 | 4.20 | 1 | 350,000 | 4.20 |
| 4 | Accountant | 5 | 200,000 | 12.00 | 5 | 200,000 | 12.00 |
| 5 | Cashier | 5 | 150,000 | 9.00 | 5 | 150,000 | 9.00 |
| 6 | Office Staff | 5 | 150,000 | 9.00 | 5 | 150,000 | 9.00 |
| 7 | Supervisor | 10 | 150,000 | 18.00 | 10 | 150,000 | 18.00 |
| 8 | Assis Supervisor | 15 | 130,000 | 23.40 | 15 | 130,000 | 23.40 |
| 9 | Engineer | 2 | 200,000 | 4.80 | 2 | 200,000 | 4.80 |
| 10 | Assistant Engineer | 6 | 150,000 | 10.80 | 6 | 150,000 | 10.80 |
| 11 | Gate Clerk | 30 | 120,000 | 43.20 | 30 | 120,000 | 43.20 |
| 12 | Collector | 36 | 120,000 | 51.84 | 36 | 120,000 | 51.84 |
| 13 | Cleanner | 70 | 120,000 | 100.80 | 70 | 120,000 | 100.80 |
| **TOTAL** | | **188** | | **300** | **188** | | **300** |

**Myanmar Agro Exchange Public Limited**
**Danyine Gone wholsale Market Project**
**Projected Profit and Loss Statement**
**Expressed in Kyats-Million**

Annex - 6

| | Year 1 | Year 2 | Year 3 | Year 4 | Year 5 | Year 6 | Year 7 | Year 8 | Year 9 | Year 10 | Year 11 and onwards |
|---|---|---|---|---|---|---|---|---|---|---|---|
| **Income** | | | | | | | | | | | |
| Local income | 5,443.55 | 19,258.54 | 11,354.68 | 5,300.99 | 4,800.46 | 5,141.59 | 5,264.72 | 5,455.19 | 5,690.12 | 5,848.82 | 5,848.82 |
| Less: 5% commercial tax | 272.18 | 962.93 | 567.73 | 265.05 | 240.02 | 257.08 | 263.24 | 272.76 | 284.51 | 292.44 | 292.44 |
| **Net income** | **5,171.37** | **18,295.61** | **10,786.95** | **5,035.94** | **4,560.43** | **4,884.51** | **5,001.48** | **5,182.43** | **5,405.61** | **5,556.38** | **5,556.38** |
| Less : Cost of sales | 3,202.90 | 10,416.40 | 5,307.44 | 1,261.10 | 791.11 | 870.38 | 884.40 | 905.85 | 929.44 | 943.89 | 943.89 |
| **Gross Profit/(Loss)** | 1,968.47 | 7,879.21 | 5,479.51 | 3,774.84 | 3,769.33 | 4,014.13 | 4,117.08 | 4,276.58 | 4,476.17 | 4,612.49 | 4,612.49 |
| **Less: Expenses** | | | | | | | | | | | |
| Management fee | 98.90 | 123.60 | 248.60 | 335.20 | 335.20 | 335.20 | 335.20 | 335.20 | 335.20 | 335.20 | 335.20 |
| Salaries | 80.64 | 242.64 | 300.24 | 300.24 | 300.24 | 300.24 | 300.24 | 300.24 | 300.24 | 300.24 | 300.24 |
| Security fee | 2.00 | 15.90 | 21.50 | 37.00 | 37.00 | 37.00 | 37.00 | 37.00 | 37.00 | 37.00 | 37.00 |
| Marketing, Advertising and Promotion | 32.60 | 260.90 | 149.20 | 214.40 | 214.40 | 214.40 | 214.40 | 214.40 | 214.40 | 214.40 | 214.40 |
| Depreciation | 444.55 | 444.55 | 444.55 | 444.55 | 444.55 | 444.55 | 444.55 | 444.55 | 444.55 | 444.55 | 444.52 |
| Miscellaneous | 10.89 | 38.52 | 22.71 | 10.60 | 9.60 | 10.28 | 10.53 | 10.91 | 11.38 | 11.70 | 11.70 |
| Total expenses | 669.58 | 1,126.11 | 1,186.80 | 1,342.00 | 1,340.99 | 1,341.68 | 1,341.92 | 1,342.30 | 1,342.77 | 1,343.09 | 1,343.06 |
| Profit/(loss) before interest and tax | 1,298.89 | 6,753.10 | 4,292.70 | 2,432.85 | 2,428.33 | 2,672.45 | 2,775.16 | 2,934.27 | 3,133.40 | 3,269.40 | 3,269.43 |
| Less: Interest | 585.00 | 910.00 | 910.00 | 910.00 | 325.00 | | | | | | |
| Profit/(loss) before tax | 713.89 | 5,843.10 | 3,382.70 | 1,522.85 | 2,103.33 | 2,672.45 | 2,775.16 | 2,934.27 | 3,133.40 | 3,269.40 | 3,269.43 |
| 25% of Net Profit to YCDC | 178.47 | 1,460.77 | 845.68 | 380.71 | 525.83 | 668.11 | 693.79 | 733.57 | 783.35 | 817.35 | 817.36 |
| | 535.42 | 4,382.32 | 2,537.03 | 1,142.14 | 1,577.50 | 2,004.34 | 2,081.37 | 2,200.71 | 2,350.05 | 2,452.05 | 2,452.07 |
| Less: Provision for income tax | | | | 285.53 | 394.37 | 501.08 | 520.34 | 550.18 | 587.51 | 613.01 | 613.02 |
| Net profit/(loss) after tax | 535.42 | 4,382.32 | 2,537.03 | 856.60 | 1,183.12 | 1,503.25 | 1,561.03 | 1,650.53 | 1,762.53 | 1,839.04 | 1,839.05 |

ပုံစံ(၂)

## ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အတွင်းရင်းနှီးမြှုပ်နှံမှုပြုလုပ်ရန်
## ရင်းနှီးမြှုပ်နှံသူ၏အဆိုပြုချက်

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ် ။
ရက်စွဲ ။ ၂၀၁၇ ခုနှစ် ၊ မေ လ(    ) ရက်

ကျွန်တော်/ကျွန်မသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၃၆ နှင့်အညီ ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံတော်အတွင်းရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုပါသဖြင့် ခွင့်ပြုပါရန်အောက်ပါအချက်များကို ဖော်ပြ၍လျှောက်ထားအပ်ပါသည်။

၁။ ရင်းနှီးမြှုပ်နှံသူ၏-

| | | |
|---|---|---|
| (က) | အမည် | ဦးဝင်းအောင် |
| (ခ) | အဖအမည် | ဦးစိုးတင့် |
| (ဂ) | နိုင်ငံသားစိစစ်ရေးကဒ်အမှတ်/ နိုင်ငံကူးလက်မှတ်အမှတ် | ၁၂/ကမရ(နိုင်)၀၀၈၂၂၀ |
| (ဃ) | နိုင်ငံသား | မြန်မာနိုင်ငံသား |
| (င) | နေရပ်လိပ်စာ | |
| | (၁) ပြည်တွင်း | အမှတ် (၁၀၅)၊ တက္ကသိုလ်ရိပ်သာလမ်း၊ (၁၀)ရပ်ကွက်၊ ကမာရွတ်မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။ |
| | (၂) ပြည်ပ | ________________ |
| (စ) | တယ်လီဖုန်း / ဖက်စ် | ဖုန်း ၀၁-၅၁၄၂၂၇၊ ၀၁-၅၀၃၅၁၅၊ ဖက်စ် ၀၁-၅၁၆၆၁၆ |
| (ဆ) | အီးမေးလ်လိပ်စာ | dagon.winaung@gmail.com |
| (ဇ) | ပင်မကုမ္ပဏီအမည် | Myanmar Agro Exchange Public Limited |
| (ဈ) | ပင်မကုမ္ပဏီတည်ရှိရာလိပ်စာ | အမှတ်-၂၆၂/၂၆၄၊ ပြည်လမ်း၊ ဒဂုန်စင်တာ(၁)၊ Block-A၊ (၇)လွှာ၊ မြေနီကုန်း၊ စမ်းချောင်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။ |
| (ည) | လုပ်ငန်းအမျိုးအစား | လယ်ယာထွက်ကုန် လက်ကားဈေးကွက်ဆိုင်ရာ အခြေခံအဆောက်အဦများတည်ထောင်ခြင်းလုပ်ငန်း |

၂။ ဖက်စပ်ပြုလုပ်၍ ရင်းနှီးမြှုပ်နှံလိုပါက ရင်းနှီးမြှုပ်နှံသူနှင့် ဖက်စပ်ပြုလုပ်မည့်သူများ၏

(က) အမည် - ______
(ခ) အဖအမည် - ______
(ဂ) နိုင်ငံသားစိစစ်ရေးကဒ်အမှတ်/ နိုင်ငံကူးလက်မှတ်အမှတ် - ______
(ဃ) နိုင်ငံသား - ______
(၁) ပြည်တွင်း
(၂) ပြည်ပ
(င) ပင်မကုမ္ပဏီအမည် - ______
(စ) ပင်မကုမ္ပဏီတည်ရှိရာလိပ်စာ - ______

မှတ်ချက်။ အထက်အပိုဒ် ၁၊၂ တို့နှင့်စပ်လျဉ်း၍ အောက်ပါအချက်အလက်များကိုပူးတွဲတင်ပြရန်-
(၁) ကုမ္ပဏီမှတ်ပုံတင်အထောက်အထားများ (မိတ္တူ)
(၂) နိုင်ငံသားစိစစ်ရေးကဒ်အမှတ်(မိတ္တူ)နှင့် နိုင်ငံကူးလက်မှတ်(မိတ္တူ)
(၃) အဆိုပြုလုပ်ငန်းတွင် ပါဝင်လိုသူများ၏ လုပ်ငန်းပိုင်းနှင့် ငွေရေးကြေးရေးဆိုင်ရာအထောက်အထားများ

၃။ ရင်းနှီးမြှုပ်နှံသူကိုယ်တိုင် လျှောက်ထားခြင်းမဟုတ်ပါက လျှောက်ထားသူ၏-

(က) အမည် - ______
(ခ) ဆက်သွယ်ရမည့်ပုဂ္ဂိုလ်အမည် - ______
(လျှောက်ထားသူသည်စီးပွားရေးအဖွဲ့အစည်းဖြစ်ပါက)
မှတ်ချက်။ တရားဝင်ကိုယ်စားလှယ်လွှဲစာပူးတွဲတင်ပြရန်
(ဂ) နိုင်ငံသားစိစစ်ရေးကဒ်အမှတ်/နိုင်ငံကူးလက်မှတ်အမှတ် - ______
(ဃ) နိုင်ငံသား - ______
(င) မြန်မာနိုင်ငံတွင်နေထိုင်သည့်နေရပ်လိပ်စာ - ______
(စ) တယ်လီဖုန်း/ဖက်စ် - ______
(ဆ) အီးမေးလ်လိပ်စာ - ______

၄။ ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုသည့်လုပ်ငန်းအမျိုးအစား လယ်ယာထွက်ကုန် လက်ကား ဈေးကွက်ဆိုင်ရာ အခြေခံ အဆောက်အဦများ တည်ထောင်ခြင်း လုပ်ငန်း
(Industrial Code No.CPC – 545 )။

ရမည်" ဟုဖော်ပြထားရာ လုပ်ငန်းဆောင်ရွက်ပြီးစီးပါက အဆိုပါဘဏ် အာမခံကို အကျိုးတူပူးပေါင်းဆောင်ရွက်သူသို့ ပြန်လည်ထုတ်ပေးမည်ဖြစ် ကြောင်း စည်းကမ်းချက်အား ထည့်သွင်းဖော်ပြသင့်ပါသည်။ ဌာနမှ ပြန်လည် စိစစ်သင့်ပါသည်၊ ထို့ပြင် စာချုပ် (မူကြမ်း)၌ သက်ဆိုင်ရာဘဏ်မှ ထုတ်ပေး သောဘဏ်အာမခံပုံစံကို စာချုပ်၏ နောက်ဆက်တွဲအဖြစ် ပူးတွဲထားရှိရန် လိုအပ်ပါသည်။ အဆိုပါဘဏ်အာမခံ သည် စာချုပ်ပါစည်းကမ်းချက်များနှင့် ညီညွတ်ရန်လိုအပ်ပါသည်၊

(ဃ) စာချုပ်(မူကြမ်း) အပိုဒ် ၆-၃ တွင် "--------Shophouse အဆောက်အအုံများ ကိုအကျိုးတူရင်းနှီးမြှုပ်နှံသူက ဆောက်လုပ်ရေးလုပ်ငန်း စတင်သည့်နေ့မှ (၁၈)လအတွင်း အပြီးတည်ဆောက်ရမည် -------- ကျန်ရှိသောအဆောက် အအုံများကို ဆောက်လုပ်ရေးလုပ်ငန်းစတင်သည့်နေ့မှ (၃၀)လအတွင်း ဆောင်ရွက်ရမည်ဟု ဖော်ပြထားရာ စာချုပ်လက်မှတ်ရေးထိုးပြီးနောက် အချိန် ကာလမည်မျှအတွင်း ဆောက်လုပ်ရေးလုပ်ငန်းစတင်မည်ကို ထည့်သွင်း ဖော်ပြသင့်ပါသည်၊

(င) စာချုပ်(မူကြမ်း) အပိုဒ် ၁၀(ခ)တွင် ဖော်ပြထားသော အကျိုးတူပူးပေါင်း ဆောင်ရွက်သူ၏ တာဝန်ဝတ္တရားများ၌ အခြားဌာနများနှင့်သက်ဆိုင်သော ကိစ္စရပ်များပါဝင်နေ၍ ဌာနအနေဖြင့် သက်ဆိုင်ရာဌာနများနှင့် ကြိုတင် ညှိနှိုင်းဆောင်ရွက်ရန်လိုအပ်ပါသည်၊

(စ) စာချုပ်(မူကြမ်း) အပိုဒ် ၁၃ စာချုပ်သက်တမ်းတွင် "-------- စာချုပ်သက် တမ်းမှာ လုပ်ငန်းစတင်လည်ပတ်သည့်နေ့မှစ၍ (၅၀)နှစ်ဖြစ်သည် --------" ဟုဖော်ပြထားပြီး၊ စာချုပ်(မူကြမ်း) အပိုဒ် ၂၄ တွင် နှစ်ဖက်စာချုပ်ဝင်များ လက်မှတ်ရေးထိုးသည့်နေ့တွင် အကျိုးသက်ရောက်စေရမည်ဟု ဖော်ပြထား ပါသည်။ စာချုပ်သက်တမ်းနှင့်ပတ်သက်၍ ဖော်ပြထားသော စည်းကမ်း

ချက်များသည် ရှေ့နောက်ညီညွတ်မှုမရှိဟု ယူဆပါသဖြင့် ညီညွတ်မှုရှိစေရန် ဌာနမှ ပြန်လည်စိစစ်သင့်ပါသည်၊

(ဇ) စာချုပ်(မူကြမ်း) အပိုဒ် ၁၅ ငွေကြေးရယူနိုင်မှုတွင် အကျိုးတူရင်းနှီးမြှုပ်နှံသူသည် စာချုပ်ပါလုပ်ငန်းအတွက် ပြည်ပ သို့မဟုတ် ပြည်တွင်းဘဏ်များ ငွေကြေးအဖွဲ့အစည်းများ သို့မဟုတ် ငွေချေးသူများထံမှ ငွေကြေးအထောက်အပံ့ရယူနိုင်ကြောင်း ဖော်ပြထားရာ ယင်းသို့ငွေကြေးအထောက်အပံ့ရယူရာတွင် အကျိုးတူပူးပေါင်းဆောင်ရွက်သူ (ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီ)၏ ခွင့်ပြုချက်ရယူရန်ဆောင်ရွက်လိုကြောင်း စည်းကမ်းချက်အား ထည့်သွင်းရန်သင့် မသင့် ဌာနမှ ပြန်လည်စိစစ်သင့်ပါသည်၊

(ဈ) စာချုပ်(မူကြမ်း)တစ်ရပ်လုံးတွင် အင်္ဂလိပ်ဘာသာဖြင့် ဖော်ပြထားသော ဘာသာရပ်နည်းပညာဆိုင်ရာ စကားရပ်များကို နောင်အငြင်းပွားမှုမဖြစ်စေရန်နှင့် သုံးစွဲမှုမှန်ကန်စေရေးအတွက် ဌာနမှ တာဝန်ယူစိစစ်သင့်ပါသည်၊

(ဉ) စာချုပ်(မူကြမ်း) အပိုဒ် ၁၆(၁)(ဂ)တွင် ဖော်ပြထားသော လုပ်ငန်းအဆောက်အအုံ၏ စံချိန်စံညွှန်းနှင့်စပ်လျဉ်း၍ နောင်အငြင်းပွားမှုမဖြစ်စေရေးအတွက် တိကျသောစံချိန်စံညွှန်းအား သတ်မှတ်ဖော်ပြသင့်ပါသည်၊

(ည) စာချုပ်(မူကြမ်း) အပိုဒ် ၃၁ အထွေထွေတွင် နောက်ဆက်တွဲ(၁)(၂)(၃)(၄)(၅)နှင့်(၆)ဟုဖော်ပြထားသော်လည်း စာချုပ်(မူကြမ်း)နှင့်အတူ နောက်ဆက်တွဲ (၁)(၃)(၄)(၅)သာပါဝင်ပါသည်။ နောက်ဆက်တွဲ(၂)နှင့်(၆)တို့မှာ ပူးတွဲပါဝင်ခြင်းမရှိပါ။ နောက်ဆက်တွဲများသည် စာချုပ်၏အစိတ်အပိုင်းတစ်ရပ်ဖြစ်သောကြောင့် စာချုပ်ချုပ်ဆိုချိန်တွင် ပူးတွဲပါရှိပြီးဖြစ်ရန် လိုအပ်ပါ သည်။ ထို့ပြင် ယင်းနောက်ဆက်တွဲမြေပုံ၊ စာရင်းဇယားများအား သက်ဆိုင်ရာဌာနများမှ တရားဝင်ရေးဆွဲထားသည့် မြေပုံ၊ စာရင်းဇယားများဖြစ်ရန် လိုအပ်ပါသည်၊

(၄) စာချုပ်(မူကြမ်း) အပိုဒ် ၃၁၊ အပိုဒ်ခွဲ (၃)အောက်ဆုံးတွင် "-------- ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၁၅/ ၂၀၁၅) --------- တင်ဒါအောင်မြင်ခဲ့သည်" ဟုဖော်ပြထားသော စည်းကမ်းချက်အား ယင်းနှင့်သက်ဆိုင်သည့် စာချုပ်ဝင်များအပိုဒ်အောက်သို့ ပြောင်းရွှေ့ဖော်ပြသင့်ပါသည်၊

(၅) စာချုပ်(မူကြမ်း)ပါကွက်လပ်များကို စာချုပ်ချုပ်ဆိုချိန်၌ ပြည့်စုံစွာဖြည့်စွက်ပြီးဖြစ်ရန်လိုအပ်ပါသည်။

၄။ ဤစာချုပ်(မူကြမ်း)ပါ စီမံကိန်းနှင့်စပ်လျဉ်း၍ တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်အစိုးရအဖွဲ့ဥပဒေပုဒ်မ ၃၃ ၌ "တိုင်းဒေသကြီး သို့မဟုတ်ပြည်နယ်အစိုးရသည် ပြည်ထောင်စုအစိုးရကချမှတ်ထားသည့်မူဝါဒများနှင့်သော်လည်းကောင်း၊ပြည်ထောင်စုဥပဒေများနှင့်သော်လည်းကောင်းမဆန့်ကျင်စေဘဲ တိုင်းဒေသကြီးသို့မဟုတ်ပြည်နယ်အတွင်း အကောင်အထည်ဖော်ဆောင်ရွက်မည့်လုပ်ငန်းများနှင့်စပ်လျဉ်းသည့် စီမံကိန်းများကို လွှတ်တော်၏သဘောတူညီချက်ဖြင့် အကောင်အထည်ဖော်ဆောင်ရွက်ရမည်" ဟု ပြဋ္ဌာန်းထားကြောင်း ဖော်ပြအပ်ပါသည်။

၅။ ဤစာချုပ်(မူကြမ်း)ကို ပြည်ထောင်စုရှေ့နေချုပ်ဥပဒေနှင့်အညီ ဥပဒေကြောင်းအရသာ ဥပဒေအကြံဉာဏ်ပေးခြင်းဖြစ်ပါသည်။ ဥပဒေရေးရာမဟုတ်သည့် စီမံရေးရာ၊ ဘဏ္ဍာရေးရာ၊ ကျွမ်းကျင်မှုဆိုင်ရာကိစ္စရပ်များကို ဤရုံးအနေဖြင့် မှတ်ချက်ပေးရန်မရှိပါကြောင်းနှင့် ယင်းကိစ္စရပ်များနှင့် စပ်လျဉ်း၍ သက်ဆိုင်ရာကျွမ်းကျင်သူများနှင့် ဆွေးနွေးညှိနှိုင်းဆောင်ရွက်ရန် အကြံပြုပါသည်။

၆။ Myanmar Agro Exchange Public Ltd သည် ဥပဒေနှင့်အညီ တရားဝင်ဖွဲ့စည်းထားသည့်ကုမ္ပဏီဟုတ် မဟုတ်၊ စာချုပ်ပါလုပ်ငန်းကို လုပ်ကိုင်နိုင်စွမ်းနှင့် လုပ်ကိုင်နိုင်ခွင့်ရှိ မရှိ၊ ငွေကြေးအင်အားပြည့်စုံမှုရှိ မရှိ၊ စာချုပ်တွင်လက်မှတ်ရေးထိုးမည့်သူသည် တရားဝင်လွှဲအပ်ခြင်းခံရသူဟုတ် မဟုတ် စသည်တို့အတွက် သက်ဆိုင်ရာစာရွက်စာတမ်းများ တောင်းယူစိစစ်သင့်ပါသည်။

၇။ ဤစာချုပ်(မူကြမ်း)ကို လက်မှတ်ရေးထိုးချုပ်ဆိုပြီးပါက မှတ်တမ်းတင်ထားနိုင်ရန်အတွက် ဤရုံးသို့ မိတ္တူ(၃)စောင်ပေးပို့ရန် မေတ္တာရပ်ခံအပ်ပါသည်။

၈။ ဤအကြံပြုချက်ကို လျှို့ဝှက်အဆင့် သတ်မှတ်ဆောင်ရွက်ရန်ဖြစ်ပါသည်။

၁၈၊ ၃၊ ၂၀၁၅

( ကျော်ဆန်း )

တာဝန်ခံညွှန်ကြားရေးမှူးချုပ်(တာဝန်)

ရန်ကုန်တိုင်းဒေသကြီးဥပဒေချုပ်ရုံး

မိတ္တူ - ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီ

- ရုံးလက်ခံ / မျှောစာတွဲ

ရန်ကုန်တိုင်းဒေသကြီးအစိုးရ

ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီ

နှင့်

Myanmar Agro Exchange Public Ltd.,

တို့၏

အင်းစိန်မြို့နယ်၊ တညင်းကုန်း သစ်သီးဝလံ၊ ဟင်းသီးဟင်းရွက်နှင့်

ပန်းမန်လက်ကားဈေးကြီး တည်ဆောက်အကောင်အထည်ဖော်ခြင်းလုပ်ငန်း

# သဘောတူစာချုပ်

၂၀၁၆ ခုနှစ်၊ မတ်လ ( ၂၂ ) ရက်

ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီ

နှင့်

Myanmar Agro Exchange Public Ltd., တို့အကြား

တညင်းကုန်း သစ်သီးဝလံ၊ ဟင်းသီးဟင်းရွက်နှင့် ပန်းမန်လက်ကားဈေးကြီး

တည်ဆောက်အကောင်အထည်ဖော်ခြင်း သဘောတူစာချုပ်

တညင်းကုန်းသစ်သီးဝလံ၊ ဟင်းသီးဟင်းရွက်နှင့် ပန်းမန်လက်ကားဈေးကြီး တည်ဆောက်အကောင်အထည်ဖော်ခြင်း သဘောတူစာချုပ် (နောင်တွင် " သဘောတူစာချုပ် " ဟု ခေါ်ဆိုမည်)ကို ၂၀၁၆ ခုနှစ်၊ မတ်လ ၂၂ ရက်နေ့တွင် ရန်ကုန်မြို့၌ ဦးစံရွှေထွန်း၊ ဌာနမှူး၊ ဈေးများဌာန ကိုယ်စားပြုသော ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီ (နောင်တွင် "အကျိုးတူပူးပေါင်းဆောင်ရွက်သူ" ဟု ခေါ်ဆိုမည် ဖြစ်ပြီး အဆိုပါစကားရပ်တွင် ယင်း၏ဆက်ခံသူများ၊ ဥပဒေအရခွင့်ပြုထားသည့် လွှဲအပ်ခြင်းခံရသူများ ပါဝင် သည်ဟု မှတ်ယူရမည်)က တစ်ဖက်

နှင့်

ဦးသူရိန်အောင်၊ နိုင်ငံသားစိစစ်ရေးကတ်ပြားအမှတ်-(၁၂/ကမရ(နိုင်)၀၅၀၈၃၉) ဒါရိုက်တာကိုယ်စားပြုသောအမှတ် (၂၆၂-၂၆၄)၊ ပြည်လမ်း၊ ဒဂုန်စင်တာ၊ Block A ၊ 7th Floor စမ်းချောင်းမြို့နယ်၊ ရန်ကုန်မြို့တွင် တည်ရှိပြီး၊ ပြည်ထောင်စုမြန်မာနိုင်ငံတော် ဥပဒေများနှင့်အညီ ဖွဲ့စည်းတည်ထောင်ထားသည့် Myanmar Agro Exchange Public Ltd., အများပိုင်ကုမ္ပဏီလီမိတက် (နောင်တွင် "အကျိုးတူရင်းနှီးမြှုပ်နှံသူ" ဟုခေါ်ဆိုမည် ဖြစ်ပြီး အဆိုပါစကားရပ်တွင် ယင်း၏ဆက်ခံသူများ၊ ဥပဒေအရခွင့်ပြု ထားသည့် လွှဲအပ်ခြင်း ခံရသူများနှင့် တရားဝင်ကိုယ်စားလှယ်များ ပါဝင်သည်ဟု မှတ်ယူရမည်) က အခြား တစ်ဖက်တို့ အကြား ချုပ်ဆိုကြပါသည်။

၂၆-၃-၂၀၁၅ ရက်နေ့ကျင်းပပြုလုပ်သော ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ အစည်းအဝေး အမှတ်စဉ်(၁၅/၂၀၁၅) အပိုဒ်(၆၄)အရ အဆင့်မြင့်လက်ကားဈေး (တညင်းကုန်း) တည်ဆောက်ရေးလုပ်ငန်းကို အကျိုးတူရင်းနှီးမြှုပ်နှံသူသည် တင်ဒါအောင်မြင်ကြောင်း ဆုံးဖြတ်ခဲ့ပါသည်။

တင်ဒါအောင်မြင်ခဲ့သည့် အကျိုးတူရင်းနှီးမြှုပ်နှံသူ နှင့် အကျိုးတူပူးပေါင်းဆောင်ရွက်သူ တို့ကို တစ်ဦးချင်းအနေဖြင့် "စာချုပ်ဝင်" ဟု ခေါ်ဆိုမည်ဖြစ်ပြီး၊ စုပေါင်း၍ "စာချုပ်ဝင်များ" ဟု ခေါ်ဆိုမည်ဖြစ်ပါသည်။ ၎င်းတွင်

(က) အကျိုးတူပူးပေါင်းဆောင်ရွက်သူသည် ဤသဘောတူစာချုပ် **နောက်ဆက်တွဲ(၁)** တွင်ဖော်ပြထားသည့် ၊ ရန်ကုန်တိုင်း ဒေသကြီး ၊ အင်းစိန်မြို့နယ်၊ ရွှေပြည်သာတံတားလမ်းနှင့် ပုလဲလမ်းထောင့်တွင် တည်ရှိသည့် မြေ(၈၂.၇၈)ဧကကိုပေါ်တွင် တညင်းကုန်းသစ်သီးဝလံ၊ ဟင်းသီးဟင်းရွက်နှင့်ပန်းမန် လက်ကားဈေးကြီး တည်ဆောက် အကောင်အထည်ဖော်ခြင်း လုပ်ငန်းကို ဆောင်ရွက်လိုသော ဆန္ဒရှိပါသည်။

(ခ) အကျိုးတူရင်းနှီးမြှုပ်နှံသူသည် ဤသဘောတူစာချုပ်ပါ စည်းကမ်းသတ်မှတ်ချက်များနှင့် အညီ အထက်အပိုဒ်ခွဲ(က)တွင် ဖော်ပြပါရှိသည့်မြေပေါ်တွင် အပိုဒ် ၆-၁ ပါ လုပ်ငန်းအဆောက်အအုံများကို တည်ဆောက်၍ နိုင်ငံတကာအဆင့်မီ တညင်းကုန်း သစ်သီးဝလံ၊ ဟင်းသီး ဟင်းရွက်နှင့်ပန်းမန်လက်ကားဈေးကြီးအားတည်ဆောက်အကောင်အထည်ဖော် ဆောင်ရွက်လိုသည့် ဆန္ဒရှိပါသည်။

သို့ဖြစ်ပါ၍ စာချုပ်ဝင်များအကြား အောက်ပါအတိုင်း သဘောတူညီကြပါသည်။




အပိုဒ်(၁) **အဓိပ္ပာယ်ဖွင့်ဆိုချက်များ**

ဤသဘောတူစာချုပ်တွင် ဖော်ပြထားသော အောက်ပါစကားရပ်များသည် အခြားနည်း ဖော်ပြထားခြင်းမရှိလျှင် ဖော်ပြပါအတိုင်း အဓိပ္ပာယ် ဖော်ဆောင်ပါသည်။

(က) "လုပ်ငန်းစတင်လည်ပတ်သည့်နေ့" ဆိုသည်မှာ အကျိုးတူပူးပေါင်းဆောင်ရွက်သူမှ ဤသဘောတူစာချုပ်ပါ လက်ကားဈေးကြီး တည်ဆောက်ပြီးစီးပြီး အပိုဒ် ၆-၉ နှင့်အညီ အဆောက်အအုံတည်ဆောက်ပြီးစီးကြောင်း လက်မှတ်ထုတ်ပေးပြီး ရက်ပေါင်း(၃၀)အတွင်း အကျိုးတူရင်းနှီးမြှုပ်နှံသူမှ ယင်းအဆောက်အအုံတွင် စီးပွားဖြစ်လုပ်ငန်း စတင်လုပ်ကိုင်သော နေ့ရက်ကို ဆိုလိုသည်။

(ခ) "ကြွေးမြီတာဝန်"ဆိုသည်မှာ စွဲဆိုမှုများ၊ တောင်းခံမှုများ အာမခံအဖြစ် လက်ဝယ်ထားပိုင်ခွင့်၊ စရိတ်စကများ၊ ပေါင်နှံခြင်းများ၊ ငှားရမ်းခြင်းများ၊ ကန့်သတ်ချက်များ၊ ကတိကဝတ်များ၊ တာဝန်ပေးခြင်းများ ဆိုလိုသည်။

(ဂ) "အစိုးရအဖွဲ့အစည်း" ဆိုသည်မှာ ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံတော်အစိုးရ၏ ဝန်ကြီးဌာန၊ ဦးစီးဌာန၊ ပြည်နယ်(သို့မဟုတ်) ဒေသဆိုင်ရာ အေဂျင်စီ၊ အာဏာပိုင် (သို့မဟုတ်) အဖွဲ့အစည်းများနှင့် အကျိုးတူရင်းနှီးမြှုပ်နှံသူ (သို့မဟုတ်) လုပ်ငန်းကို အကျိုးသက်ရောက်နိုင်သည့် ကိစ္စရပ်ပေါ်တွင် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၏ ဥပဒေများအရ စီရင်ပိုင်ခွင့်ရှိသည့် အခြားသောအစိုးရ အာဏာပိုင်အဖွဲ့အစည်း၊ သီးခြားရပ်တည်သည့် အဖွဲ့အစည်း (သို့မဟုတ်) လူပုဂ္ဂိုလ်ကို ဆိုလိုသည်။

(ဃ) "ဆောက်လုပ်ရေးလုပ်ငန်းစတင်သည့်ရက်" ဆိုသည်မှာ အပိုဒ် ၆-၇ နှင့်အညီ အကျိုးတူရင်းနှီးမြှုပ်နှံသူက တည်ဆောက်မှုလုပ်ငန်း စတင်သည့် သတ်မှတ်ထားသည့် နေ့ရက်ကို ဆိုလိုသည်။

(င) "ပုဂ္ဂိုလ်" ဆိုသည်မှာ လူပုဂ္ဂိုလ်တစ်ဦးချင်း၊ ကော်ပိုရေးရှင်း၊ အစုစပ်လုပ်ငန်း၊ အသင်းအဖွဲ့၊ ပူးတွဲစတော့ကုမ္ပဏီ၊ တရားဝင်ဖွဲ့စည်းခြင်းမပြုရသေးသော စီးပွားရေးအဖွဲ့အစည်း၊ ဖက်စပ် လုပ်ငန်း၊ အစိုးရအဖွဲ့အစည်းကို ခေါ်ဆိုသည်။

(စ) "လုပ်ငန်း"ဆိုသည်မှာ ဤသဘောတူစာချုပ်အရ နိုင်ငံတကာအဆင့်မီ တညင်းကုန်း၊ သစ်သီးဝလံ၊ ဟင်းသီးဟင်းရွက်နှင့် ပန်းမန်လက်ကားဈေးကြီး၊ တည်ဆောက် လည်ပတ်လုပ်ကိုင်ဆောင်ရွက်ခြင်းလုပ်ငန်းကို ဆိုလိုသည်။

(ဆ) "လုပ်ငန်းအဆောက်အအုံ" ဆိုသည်မှာ ဤသဘောတူစာချုပ် အပိုဒ် ၆-၁ တွင် ဖော်ပြထားသော အဆောက်အအုံ အသီးသီးအားလုံးကို ဆိုလိုသည်။

(ဇ) "တည်ဆောက်ရေးကာလ" ဆိုသည်မှာ အပိုဒ် ၆.၇ အရ ဆောက်လုပ်ရေးလုပ်ငန်း စတင်သည့်ရက်မှ (၁၈)လကြာကာလ (သို့မဟုတ်) ထပ်မံတိုးမြှင့် ပေးသည့်ကာလကို ဆိုလိုသည်။

(ဈ) "လုပ်ငန်းပင်မအဆောက်အအုံများ" ဆိုသည်မှာ အပိုဒ် ၆-၁ အပိုင်း-၁ တွင် ဖော်ပြထားသည့် အမှတ်စဉ် ၁ မှ ၂၀ အထိ ပါဝင်သော နိုင်ငံတကာအဆင့်မီ တညင်းကုန်း သစ်သီးဝလံ၊ ဟင်းသီးဟင်းရွက်နှင့်ပန်းမန်လက်ကားဈေးကြီး၏ လုပ်ငန်းအဆောက်အအုံများကို ဆိုလိုသည်။

အပိုဒ်(၂) လုပ်ငန်းအကောင်အထည်ဖော်ဆောင်ရွက်ခြင်း

၂-၁ လုပ်ငန်းအကောင်အထည်ဖော်ဆောင်ရွက်မည့်မြေနေရာ (သို့မဟုတ်) လုပ်ငန်းမြေနေရာ မှာ ဤသဘောတူစာချုပ် နောက်ဆက်တွဲ(၁)တွင် အသေးစိတ်ဖော်ပြထားသော ရန်ကုန်တိုင်းဒေသကြီး၊ အင်းစိန်မြို့နယ်ရှိ၊ လက်ကားဈေးကြီး တည်ဆောက်မည့် မြေဧက (၈၂.၇၈) ကျယ်ဝန်းသည့် မြေနေရာဖြစ်ပါသည်။

၂-၂ အဆိုပါ လုပ်ငန်းမြေနေရာ မြေဧက(၈၂.၇၈)တွင် စက်မှုဝန်ကြီးဌာနပိုင် မြေဧက(၂၀) ပါဝင်နေပါသဖြင့် ယင်းမြေဧက(၂၀)ကို စက်မှုဝန်ကြီးဌာနက နိုင်ငံတော်သို့ပြန်လည်အပ်နှံပြီး အကျိုးတူပူးပေါင်းဆောင်ရွက်သူသို့ လွှဲပြောင်းပေးရန် သဘောတူကာ စီစဉ်ဆောင်ရွက်လျက်ရှိပါသည်။ ၂၆-၂-၂၀၁၆ ရက်နေ့ထုတ် မြန်မာ့အလင်းနှင့် ကြေးမုံသတင်းစာတို့တွင် အဆင့်မြင့်လက်ကားဈေး(တညင်းကုန်း) ဖွင့်လှစ်ရန် မြေနေရာလွှဲပြောင်းရယူနိုင်ရေး ပြည်ထောင်စုအစိုးရအဖွဲ့သို့ တင်ပြသည့်ကိစ္စရပ်အပေါ် နောင်အစိုးရလက်ထက်တွင် စဉ်းစားစီမံဆောင်ရွက်နိုင်ရန်အတွက် ဆိုင်းငံ့ထားရန် ဖော်ပြပါရှိသည်ကို တွေ့ရှိရပါသည်။ ဤသို့ဆိုင်းငံ့ထားသည့်စာရင်းတွင်ပါဝင်နေသဖြင့် လုပ်ငန်းသဘောတူစာချုပ်ကို ချုပ်ဆိုရန် သင့်၊ မသင့် ၁၇-၃-၂၀၁၆ ရက်နေ့ ကျင်းပပြုလုပ်သော ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် ၁၂/၂၀၁၆ သို့ တင်ပြခဲ့ရာ တည်ဆောက်ရေး လုပ်ငန်း အမြန်ဆုံးအကောင်အထည်ဖော်ဆောင်ရွက်နိုင်ရန်အတွက် လုပ်ငန်းသဘောတူ စာချုပ်ချုပ်ဆိုရန်နှင့် စက်မှုဝန်ကြီးဌာန၏ မြေဧက(၂၀) လွှဲပြောင်းရရှိရေး ဆက်လက် ဆောင်ရွက်သွားရန် ဆုံးဖြတ်ခဲ့ပါသည်။ ယင်းဆုံးဖြတ်ချက်အရ ဤသဘောတူ စာချုပ်ကို ချုပ်ဆိုခြင်းဖြစ်ပြီး အကျိုးတူပူးပေါင်းဆောင်ရွက်သူမှ မြေလွှဲပြောင်း ရရှိရေး ဆက်လက် ဆောင်ရွက်သွားရန် ဖြစ်ပါသည်။ အကယ်၍ အဆိုပါ စက်မှုဝန်ကြီးဌာန၏ မြေဧက(၂၀) လွှဲပြောင်းရရှိမှု မရှိခဲ့ပါက အကျိုးတူပူးပေါင်းဆောင်ရွက်သူနှင့် အကျိုးတူရင်းနှီးမြှုပ်နှံသူတို့ နှစ်ဦးနှစ်ဘက်အကျိုးခံစားခွင့်များကို ညှိနှိုင်းဆောင်ရွက်သွားရန်ဖြစ်ပါသည်။

၂-၃ အကျိုးတူပူးပေါင်းဆောင်ရွက်သူသည် လုပ်ငန်းမြေနေရာပေါ်တွင် အကျိုးတူရင်းနှီးမြှုပ်နှံသူအား ဤသဘောတူစာချုပ်ပါ စည်းကမ်းသတ်မှတ်ချက်များ နှင့်အညီလုပ်ငန်းကို အကောင်အထည်ဖော်ဆောင်ရွက်ရန် သဘောတူခွင့်ပြုပြီး အကျိုးတူရင်းနှီးမြှုပ်နှံသူမှလည်း ယင်းမြေပေါ်တွင် လုပ်ငန်းကို အကောင်အထည်ဖော် ဆောင်ရွက်ရန် သဘောတူပါသည်။

အပိုဒ်(၃) လုပ်ငန်းလည်ပတ်လုပ်ကိုင်ခြင်း

အကျိုးတူပူးပေါင်းဆောင်ရွက်သူနှင့် ပူးပေါင်း၍ အကျိုးတူရင်းနှီးမြှုပ်နှံသူက လုပ်ငန်းလည်ပတ်လုပ်ကိုင်ဆောင်ရွက်မည့်အစီအစဉ်မှာ -

(က) ဤသဘောတူစာချုပ် အပိုဒ် ၆-၁ အပိုင်း(၁)တွင် ဖော်ပြထားသော လုပ်ငန်းအဆောက်အအုံများ တည်ဆောက်ပြီးနောက် အကျိုးတူရင်းနှီးမြှုပ်နှံသူမှ စီမံခန့်ခွဲအုပ်ချုပ်၍ လုပ်ငန်းလည်ပတ်အကောင်အထည်ဖော် ဆောင်ရွက်သွားရမည်။

(ခ) ဤသဘောတူစာချုပ် အပိုဒ် ၆-၁ အပိုင်း (၂)တွင်ဖော်ပြထားသော Shophouseများအနက် အပိုဒ် ၇-၁(ခ)အရ အကျိုးတူပူးပေါင်းဆောင်ရွက်သူသို့ တည်ဆောက်လွှဲပြောင်းပေးရမည့် shophouse များမှအပ အခြားလုပ်ငန်းအဆောက်အအုံများကို အကျိုးတူရင်းနှီးမြှုပ်နှံသူမှ ရောင်းချခြင်းပြုပါမည်။

(ဂ) အကျိုးတူရင်းနှီးမြှုပ်နှံသူသည် လုပ်ငန်းအဆောက်အအုံများ စီမံခန့်ခွဲမှုဆောင်ရွက်ခြင်းကို ဤသဘောတူစာချုပ် အပိုဒ်(၄)ပါ လုပ်ငန်း လည်ပတ်လုပ်ကိုင်မှု သက်တမ်းကာလ

တလျှောက်လုံး ဆောင်ရွက်ရမည်။ထိုသက်တမ်း ကုန်ဆုံးချိန်တွင် ၎င်းစီမံခန့်ခွဲမှုကို အကျိုးတူပူးပေါင်းဆောင်ရွက်သူထံသို့ အကျိုးတူ ရင်းနှီးမြှုပ်နှံသူမှ လွှဲပြောင်းပေးရမည်။

(ဃ) အကျိုးတူပူးပေါင်းဆောင်ရွက်သူမှ တာဝန်ပေးအပ်သူသည် လွတ်လပ်သောဒါရိုက်တာအဖြစ် Myanmar Agro Exchange Public Ltd တွင် ပါဝင်ဆောင်ရွက်ပါမည်။

အပိုဒ်(၄) လုပ်ငန်းလည်ပတ်လုပ်ကိုင်မှုသက်တမ်း

လုပ်ငန်းလည်ပတ်လုပ်ကိုင်မှုသက်တမ်းမှာ လုပ်ငန်းစတင်လည်ပတ်သည့်နေ့ရက်မှ ကနဦးနှစ်(၅၀) အကောင်အထည်ဖော်ဆောင်ရွက်မည်ဖြစ်သည်။ ယင်းသက်တမ်းကို အကျိုးတူပူးပေါင်းဆောင်ရွက်သူ၏ သဘောတူညီမှုအရ တစ်ကြိမ်လျှင် (၁၀)နှစ်စီဖြင့် နှစ်ကြိမ်တစ်ဆက်တည်း သက်တမ်းတိုးမြှင့် ခွင့်ပြုနိုင်သည်။

အပိုဒ်(၅) လုပ်ငန်းဆောင်ရွက်မှုဆိုင်ရာဘဏ်အာမခံ

၅-၁ ဤသဘောတူစာချုပ်တွင်ပါရှိသည့်အခြေအနေများ၊ စည်းကမ်းသတ်မှတ်ချက်များအတိုင်း အကျိုးတူ ရင်းနှီးမြှုပ်နှံသူမှ သေချာစွာလိုက်နာဆောင်ရွက်စေရန်အတွက် အကျိုးတူရင်းနှီးမြှုပ်နှံသူမှ အာမခံငွေအဖြစ် လုပ်ငန်းကုန်ကျငွေ၏ ၀.၅% ကျပ် ၅၀၀၀၀၀၀၀၀/- (ကျပ်သန်းငါးရာတိတိ)တန်ဖိုးရှိ ပြည်တွင်းဘဏ်တစ်ခုမှ ထုတ်ပေးသည့်လုပ်ငန်းဆောင်ရွက်မှုဘဏ်အာမခံစာ (Performance Bank Guarantee)ကို အကျိုးတူပူးပေါင်း ဆောင်ရွက်သူသို့ ဤသဘောတူစာချုပ် လက်မှတ်ရေးထိုးပြီး (၁၄)ရက်အတွင်း ပေးအပ်ရမည်။ ၎င်းအာမခံသည် အပိုဒ် ၆-၁ တွင် ဖော်ပြထားသော လုပ်ငန်း အဆောက်အအုံများ တည်ဆောက်ပြီးစီးသည့်အတွက် အကျိုးတူပူးပေါင်းဆောင်ရွက်သူမှ လုပ်ငန်းပြီးစီးကြောင်း လက်မှတ်ထုတ်ပေးသည့်နေ့အထိ တရားဝင်အတည်ဖြစ်ရမည်။ လုပ်ငန်းဆောင်ရွက်ပြီးစီးပါက အဆိုပါ ဘဏ်အာမခံကို အကျိုးတူရင်းနှီးမြှုပ်နှံသူသို့ ပြန်လည်ထုတ်ပေးမည်ဖြစ်ပါသည်။ ဘဏ်အာမခံပုံစံကို နောက်ဆက်တွဲ(၂)ဖြင့် ပူးတွဲဖော်ပြထားပါသည်။

၅-၂ ဤသဘောတူစာချုပ်ပါအရ စည်းကမ်းသတ်မှတ်ချက်များကို အကျိုးတူရင်းနှီးမြှုပ်နှံသူမှ လိုက်နာရန်ပျက်ကွက်ပါက လုပ်ငန်းဆောင်ရွက်မှု ဘဏ်အာမခံကို အကျိုးတူပူးပေါင်းဆောင်ရွက်သူမှ သိမ်းယူခွင့်ရှိစေရမည်။

အပိုဒ်(၆) လုပ်ငန်းအဆောက်အအုံများတည်ဆောက်ခြင်း

၆-၁ အကျိုးတူရင်းနှီးမြှုပ်နှံသူမှ အောက်ဖော်ပြပါ လုပ်ငန်းအဆောက်အအုံများကို လုပ်ငန်းမြေနေရာတွင် တည်ဆောက်၍ လုပ်ငန်းကို လည်ပတ်လုပ်ကိုင်အကောင်အထည်ဖော် ဆောင်ရွက်ရမည်။

အပိုင်း - ၁ နောက်ဆက်တွဲ(၇) ပုံစံတွင် အနီရောင်ခြယ်ထားသော မြေနေရာပေါ်တွင် ဆောက်လုပ်မည့် လုပ်ငန်းအဆောက်အအုံများ

၁။ ဈေးအုပ်ချုပ်ရေးမှူးရုံး (နှစ်ထပ်) (Market Management Office) Building - 1

၂။ ကားကတ္တား (Weight Bridge) No - 2

၃။ ပန်းမန်ရောင်းဝယ်ရေးရုံနှင့် အသားငါး၊ ပင်လယ်စာ ကုန်ခြောက်နှင့် စားဖိုဆောင်သုံး သီးနှံနှင့်ပစ္စည်း ရောင်းဝယ်ရေးရုံ (Meat , Fish , Seafood & Kitchen ware Ground Market) Building (4+9)

၄။ စားသောက်ဆိုင်များအတွက် အသင့်ပြုပြင်ထုတ်ပိုးပြီး ဟင်းသီးဟင်းရွက်နှင့် သစ်သီးဝလံများ ရောင်းဝယ်ရေးရုံ (Process Meat , Seafood , Frozen Food Market) Building - 5

| | | |
|---|---|---|
| ၅။ | သစ်သီးမျိုးစုံရောင်းချရေးဆိုင်ခန်းများ(Wholesale Fruit Market) | Building- 8 +8 |
| ၆။ | ရာသီထွက်ကုန်သီးနှံနှင့်လေလံဈေးရုံ(Seasonal Fruit Market) | Building - 8/1 |
| ၇။ | တောင်သူ/လက်လီရောင်းဝယ်သူများဈေးရုံ(သစ်သီးဝလံ/ဟင်းသီးဟင်းရွက်/ပန်းမန်) (Flower , Fruit & Vegetable Ground Market) | Building 10+11 |
| ၈။ | တောင်သူလက်လီရောင်းချရန်နေရာ (သီးနှံ/ပန်းမန်/ပျိုးပင်နှင့်မျိုးစေ့များ (Fruit , Flower Ground Market (Outdoor) | No – 12 |
| ၉ ။ | ကုန်တင်ယာဉ်များနှင့်တိုက်ရိုက်ရောင်းဝယ်မည့်နေရာ(ကားအစီးရေ) (Truck to Truck Direct Sale & Transfer Ground) | No - 16 |
| ၁၀။ | ထရပ်ကားများပစ္စည်းအတင်အချနေရာ (ကားအစီးရေ) (Truck Loading & Unloading) | No - 17 |
| ၁၁။ | ကုန်တင်ယာဉ်ရပ်နားစခန်း (Truck Parking) | No– 20 |
| ၁၂။ | ဝန်ထမ်းအိမ်ယာ (Staff House) | Building – 22 |
| ၁၃။ | သန့်စင်ခန်းနှင့်ရေချိုးခန်းများ (Toilet & Shower) | Building – 23 |
| ၁၄။ | အမှိုက်များဖိကြိတ်စွန့်ပစ်ရုံ (Garbage Store) | Building – 24 |
| ၁၅။ | ဇီဝဓာတ်ငွေ့လျှပ်စစ်ဓာတ်အားပေးရုံ (Biogas Collection Tank) | Building – 25 |
| ၁၆။ | ရေဆိုးသန့်စင်စက်ရုံ (Waste Water Treatment) | Building – 26 |
| ၁၇။ | မြေပြင်/ရေအောက်ရေလှောင်ကန်နှင့် ရေသန့်စက်ရုံ(Ground Tank) | Building – 27 |
| ၁၈။ | လျှပ်စစ်ဓာတ်အားခွဲရုံ (Sub Station) | Building – 28 |
| ၁၉ ။ | စားသောက်ဆိုင်များ (Food court) | Building – 30 |
| ၂၀။ | ပြည်တွင်းကုန်တင်ကုန်ချအလုပ်သမားရုံး (အမှတ်စဉ် ၁ မှ ၂၀ အထိသည် လုပ်ငန်းပင်မအဆောက်အအုံများဖြစ်ပါသည်။) | Building –31 |
| ၂၁။ | ဆေးကြော/ထုတ်ပိုးရုံနှင့်အအေးခန်းသိုလှောင်ရုံ (Washing , Cleaning Parking & Cold Storage) | Building – 13 |
| ၂၂။ | ဟင်းသီးဟင်းရွက်နှင့်သစ်သီးဝလံ တန်ဖိုးမြှင့်ထုတ်လုပ်/အအေးခန်းစက်ရုံ(Fruit & Vegetable Production & Cold Storage) | Building – 14 |
| ၂၃။ | အအေးခန်း (သစ်သီးဝလံ/ဟင်းသီးဟင်းရွက်) (Food & Vegetable Cold Storage) | Building – 15 |
| ၂၄။ | အဆင့်မြင့်ဈေးရုံ (Hyper Market) | Building – 18 |
| ၂၅။ | တည်းခိုခန်း (Motel ( 8 Storey )) | Building – 19 |

အပိုင်း - ၂ နောက်ဆက်တွဲ(၇) တွင် အပြာရောင်ခြယ်သထားသော မြေနေရာပေါ်တွင် ဆောက်လုပ်မည့်လုပ်ငန်း အဆောက်အအုံများ၊

| | | |
|---|---|---|
| ၁။ | အကြီးစားပွဲရုံ/ရုံးခန်း/လူနေအဆောက်အဦးများ (Shop House) | Building – 3 |
| ၂။ | သစ်သီးဝလံ၊ ဟင်းသီးဟင်းရွက်အလတ်စား၊ လက္ကားရောင်းဝယ်ရေးရုံ (Fruit & Vegetable Wholesale Shop) | Building –6 , 7 |
| ၃။ | စက်သုံးဆီအရောင်းဆိုင် (Petrol Station) | Building – 21 |

လုပ်ငန်းအဆင့်အလိုက်တည်ဆောက်မှုအစီအစဉ်နှင့်ပုံစံ၊ လမ်းပန်းဆက်သွယ်မှု၊ကားရပ်နားရန်နေရာ၊ အများပြည်သူပို့ဆောင်ရေး၊ လျှပ်စစ်ဓါတ်အားသုံးစွဲမှု၊ ဆက်သွယ်ရေး၊ ရေအရင်းအမြစ်ရယူမှု၊ရေသန့်စင်စနစ်၊ ရေလှုံမြောင်း၊ ရေဆိုးထုတ်စနစ်၊ အမှိုက်စွန့်ပစ်မှုစနစ်တို့ဖော်ပြပါရှိသော တည်ဆောက်ရေးကျွမ်းကျင်မှုဆိုင်ရာ အချက်အလက်များကို **နောက်ဆက်တွဲ(၃)ဖြင့်** ဖော်ပြထားပါသည်။

၆-၂ လုပ်ငန်းအတွက် ခန့်မှန်းခြေရင်းနှီးမြှုပ်နှံမှုပမာဏမှာ ကျပ်ဘီလီယံ ၉၉.၈၇၃ ဘီလီယံ ခန့်ဖြစ်ပါသည်။

၆-၃ လုပ်ငန်းမြေနေရာပေါ်တွင်အကျိုးတူပူးပေါင်းဆောင်ရွက်သူက အတည်ပြုထားသော အစီအစဉ်များနှင့်အညီ စုစုပေါင်းအကျယ်အဝန်း (၈၂.၇၈)ဧကအတွင်း အပိုဒ် ၆-၁ အပိုင်း ၁ တွင် ဖော်ပြထားသည့် လုပ်ငန်းပင်မအဆောက်အအုံများနှင့် အပိုဒ် ၆-၁ အပိုင်း-၂ တွင် ဖော်ပြထားသည့် အကျိုးတူပူးပေါင်းဆောင်ရွက်သူသို့ တည်ဆောက်လွှဲပြောင်းပေးရမည့် Shop House အဆောက်အအုံများကို အကျိုးတူရင်းနှီးမြှုပ်နှံသူက ဆောက်လုပ်ရေးလုပ်ငန်းစတင်သည့်နေ့မှ (၁၈)လအတွင်း ပြီးစီးအောင်တည်ဆောက်ရမည်။ အပိုဒ် ၆-၁ ပါ ကျန်ရှိသော လုပ်ငန်းအဆောက်အအုံများကို ဆောက်လုပ်ရေးလုပ်ငန်း စတင်သည့်နေ့မှ (၃၀)လအတွင်း ပြီးစီးအောင်ဆောင်ရွက်ရမည်။ သတ်မှတ်ကာလများအတွင်း လုပ်ငန်းအဆောက်အအုံများ တည်ဆောက်မှု ပြီးစီးခြင်းမရှိလျှင် ဤသဘောတူစာချုပ် အပိုဒ် ၁၈ အရ မလွန်ဆန်နိုင်သောဖြစ်ရပ်ကြောင့်မှအပ သတ်မှတ်ထားသည့် ကာလကျော်လွန်သည့် နေ့ရက်များအတွက် ဒဏ်ကြေးအဖြစ် တစ်ရက်လျှင် တစ်သိန်းကျပ်တိတိ (ကျပ် ၁၀၀,၀၀၀/-) ဖြင့် အကျိုးတူပူးပေါင်းဆောင်ရွက်သူသို့ ပေးသွင်းရန် သဘောတူပါသည်။

၆-၄ လုပ်ငန်းအဆောက်အအုံအသီးသီး၏ တည်ဆောက်မည့် ခန့်မှန်းခြေ ကြမ်းခင်းဧရိယာအကျယ်အဝန်းများ၊ Building Coverage နှင့် Floor Area Ratio ကို **နောက်ဆက်တွဲ(၄)**၊ ယင်းတို့ တည်ဆောက် ပြီးစီးရမည့်အချိန်ကာလ သတ်မှတ်ချက်ဇယားကို **နောက်ဆက်တွဲ(၅)**နှင့် လုပ်ငန်းအဆောက်အဦဆောက်လုပ်ရမည့် စံချိန်စံညွှန်းကို **နောက်ဆက်တွဲ(၆)ဖြင့်** ပူးတွဲထားပါသည်။

၆-၅ အကျိုးတူရင်းနှီးမြှုပ်နှံသူသည် လုပ်ငန်းအဆောက်အအုံများ တည်ဆောက်မည့်အစီအစဉ်၊ ပုံစံများအတွက် သက်ဆိုင်ရာအဖွဲ့အစည်းများနှင့်အကျိုးတူပူးပေါင်းဆောင်ရွက်သူ၏ အတည်ပြုမှုကိုရယူရမည်။အတည်ပြုပြီးဖြစ်သည့်အစီအစဉ်ပုံစံများကို ပြင်ဆင်ပြောင်းလဲလိုပါက တစ်ဖက်နှင့်တစ်ဖက်အကျိုးခံစားခွင့်ကိုမထိခိုက်စေဘဲ၊အကျိုးတူပူးပေါင်းဆောင်ရွက်သူနှင့် သက်ဆိုင်ရာအဖွဲ့အစည်းများထံတင်ပြ၍ အတည်ပြုမှုရယူရမည်။ အကျိုးတူပူးပေါင်း ဆောင်ရွက်သူနှင့် သက်ဆိုင်ရာအဖွဲ့အစည်းက သင့်လျော်သည့် စည်းကမ်း သတ်မှတ်ချက်များဖြင့် ခွင့်ပြုနိုင်သည်။

၆-၆ ဤသဘောတူစာချုပ်အပိုဒ်(၆-၁) ပါတည်ဆောက်မည့် လုပ်ငန်း အဆောက်အအုံ များ၏ ပုံစံစစ်ဆေးခ၊ ပစ္စည်းစုပုံခွန်နှင့် အဆောက်အဦးပြီးစီးကြောင်း သက်သေခံလက်မှတ်စစ်ဆေးခများအတွက် ပေးသွင်းရမည့်ငွေ၏၅၀%ကိုအကျိုးတူရင်းနှီးမြှုပ်နှံသူမှ ကျခံရပါမည်။

၆-၇ ဤသဘောတူစာချုပ် လက်မှတ်ရေးထိုးပြီးနောက် လုပ်ငန်းမြေနေရာတွင် လုပ်ငန်းအဆောက်အအုံများ တည်ဆောက်အကောင်အထည်ဖော်မှု စတင်ခြင်းကို အကျိုးတူပူးပေါင်း ဆောင်ရွက်သူနှင့် သက်ဆိုင်ရာအဖွဲ့အစည်းများက အဆိုပါအစီအစဉ်များ၊ ကျွမ်းကျင်မှုဆိုင်ရာ အချက်

အလက်များအပေါ် အတည်ပြုပြီး အကျိုးတူပူးပေါင်းဆောင်ရွက်သူက တည်ဆောက်မှုလုပ်ငန်း စတင်ရန် စာဖြင့်ရေးသား၍ သဘောတူခွင့်ပြုသည့်နေ့ရက်တွင် စတင်ဆောင်ရွက်ရမည်။

၆-၈ လုပ်ငန်းအဆောက်အအုံများတည်ဆောက်ရေးအတွက် လိုအပ်ချက်များဆောင်ရွက်ရန်မှအပ လုပ်ငန်း မြေနေရာပေါ်တွင် မည်သည့်အဆောက်အအုံပစ္စည်းများ၊ (သို့မဟုတ်) အခြားပစ္စည်းများကို ပြုလုပ်ခြင်း (သို့မဟုတ်) ထုတ်လုပ်ခြင်းမပြုရ။ လုပ်ငန်းမြေနေရာပေါ်တွင် လုပ်ငန်းအဆောက်အအုံများတည်ဆောက်မှုပြီးစီးသည့်အခါ အဆိုပါ အဆောက်အအုံပစ္စည်း (သို့မဟုတ်) အခြားပစ္စည်း တို့ကို အကျိုးတူရင်းနှီးမြှုပ်နှံသူ၏စရိတ်ဖြင့် ဖယ်ရှားပစ်ရမည်။

၆-၉ လုပ်ငန်းအဆောက်အအုံအသီးအသီး တည်ဆောက်ပြီးစီးပါက အကျိုးတူပူးပေါင်း ဆောင်ရွက်သူမှစစ်ဆေးပြီး သတ်မှတ်ချက်များနှင့်ညီညွတ်ပါက အကျိုးတူရင်းနှီးမြှုပ်နှံသူသို့ အကျိုးတူပူးပေါင်းဆောင်ရွက်သူက လုပ်ငန်းပြီးစီးကြောင်း လက်မှတ်ထုတ်ပေးရမည်။ အဆိုပါ လက်မှတ်ထုတ်ပေးသည်အထိ အကျိုးတူပူးပေါင်းဆောင်ရွက်သူသို့ တည်ဆောက်မှုလုပ်ငန်းများ တိုးတက်မှုအခြေအနေကို (၃)လတစ်ကြိမ် အစီရင်ခံတင်ပြရမည်။

၆-၁၀ လုပ်ငန်းအဆောက်အုံများတည်ဆောက်ခြင်းမှ ပေါ်ပေါက်သည့် ထိခိုက်ပျက်စီးဆုံးရှုံးမှုအတွက် တောင်းဆိုမှုများနှင့်စပ်လျဉ်း၍ အကျိုးတူရင်းနှီးမြှုပ်နှံသူတွင် တာဝန်ရှိစေရမည်။

၆-၁၁ လုပ်ငန်းအဆောက်အအုံများ တည်ဆောက်မှုပြီးစီးခြင်းမရှိသေးမီ အကျိုးတူပူးပေါင်းဆောင်ရွက်သူနှင့် ယင်းအရာရှိများ(သို့မဟုတ်) တာဝန်ပေးအပ်ထားသည့် ပုဂ္ဂိုလ်များသည် တည်ဆောက်မှုလုပ်ငန်းတိုးတက်မှုအခြေအနေကို ကြည့်ရှုရန်နှင့် အကျိုးတူရင်းနှီးမြှုပ်နှံသူ ဆောင်ရွက်သည့် လုပ်ငန်းများကို စစ်ဆေးရန် သင့်လျော်သည့်အချိန်အတွင်း လုပ်ငန်းမြေနေရာသို့ ဝင်ရောက်ခွင့်ရှိသည်။ ဤသို့စစ်ဆေးရာတွင် အတည်ပြုပုံစံနှင့် ကိုက်ညီမှုမရှိခြင်း (သို့မဟုတ်) စံချိန်စံညွှန်းမကိုက်ညီသောပစ္စည်းများ သုံးစွဲထားခြင်း (သို့မဟုတ်) အင်ဂျင်နီယာနည်းနသဿယများနှင့် ကိုက်ညီမှုမရှိခြင်း စသည်တို့ကို တွေ့ရှိပါက အကျိုးတူပူးပေါင်းဆောင်ရွက်သူညွှန်ကြားသည့်အတိုင်း အကျိုးတူရင်းနှီးမြှုပ်နှံသူက မပျက်မကွက် လိုက်နာဆောင်ရွက်ရမည်။

## အပိုဒ်(၇) နှစ်ဖက်အကျိုးခံစားခွင့်

၇-၁ အကျိုးတူပူးပေါင်းဆောင်ရွက်သူနှင့်အကျိုးတူရင်းနှီးမြှုပ်နှံသူတို့၏ အကျိုးခံစားခွင့်မှာ အောက်ပါအတိုင်း ဖြစ်ပါသည် -

(က) ဤသဘောတူစာချုပ်ပါ အပိုဒ်-၆-၁ အပိုင်း-၁ တွင်ဖော်ပြထားသော လုပ်ငန်းအဆောက်အအုံများ၏ လုပ်ငန်းလည်ပတ် အကောင်အထည်ဖော်ခြင်းမှ နှစ်အလိုက်ရရှိသော အမြတ်ငွေ၏၂၅% ကို အကျိုးတူပူးပေါင်း ဆောင်ရွက်သူသို့ အကျိုးတူရင်းနှီးမြှုပ်နှံသူမှ နှစ်စဉ်ပေးအပ်ပါမည်။

(ခ) ဤသဘောတူစာချုပ် အပိုဒ် ၆-၁ အပိုင်း-၂ အမှတ်စဉ်(၁)တွင် ပါဝင်သော Shop House အလုံးပေါင်း (၂၀၀) (သို့မဟုတ်) ယင်း Shop House တည်ဆောက်ရန်လျာထားသည့်လုပ်ငန်းမြေနေရာပေါ်တွင် တည်ဆောက်နိုင်မည့် စုစုပေါင်း Shop House အရေအတွက် ၏ ၂၀% ကို အကျိုးတူ ရင်းနှီးမြှုပ်နှံသူက အကျိုးတူပူးပေါင်းဆောင်ရွက်သူသို့ လွှဲပြောင်းပေးအပ်ပါမည်။ ကျန်ရှိသော Shop House ၈၀% နှင့် အပိုဒ်၆-၁ အပိုင်း-၂ အမှတ်စဉ် (၂)နှင့်(၃)တို့တွင် ဖော်ပြထားသော လုပ်ငန်းအဆောက်အအုံများ၏ တည်ဆောက်ရောင်းချခြင်း (သို့မဟုတ်)အငှားချခြင်းမှရရှိသောအသားတင် အမြတ်ငွေ၏ ၂၅%ကို နှစ်အလိုက် အကျိုးတူပူးပေါင်းဆောင်ရွက်သူသို့ နှစ်စဉ်

ပေးအပ်ပါမည်။ အကျိုးတူပူးပေါင်း ဆောင်ရွက်သူ အကျိုးခံစားခွင့် ၂၀% Shop House တည်ဆောက် မည့် တည်နေရာပြ မြေပုံကို နောက်ဆက်တွဲ(၇)တွင် ပန်းရောင်ဖြင့် ဖော်ပြထားပါသည်။

(ဂ) အမြတ်ငွေကို တွက်ချက်နိုင်ရန် အကျိုးတူရင်းနှီးမြှုပ်နှံသူသည် လုပ်ငန်းဆောင်ရွက်ခြင်း အတွက် ရေးဆွဲထားသော နှစ်ချုပ်စာရင်းများကို ကုမ္ပဏီဥပဒေနှင့်အညီ လက်မှတ်ရ ပြည်သူ့စာရင်းကိုင်က စစ်ဆေးအတည်ပြုထားသော နှစ်ချုပ်စာရင်းကို ဒါရိုက်တာအဖွဲ့၏ သဘောတူခွင့်ပြုချက်ဖြင့် အကျိုးတူ ပူးပေါင်းဆောင်ရွက်သူသို့ ဘဏ္ဍာရေးနှစ် ကုန်ဆုံးပြီး ရက်ပေါင်း(၃၀) (ဧပြီလ ၃၀ ရက်) နောက်ဆုံးထား၍ ပေးအပ်ပါမည်။

(ဃ) အကျိုးတူပူးပေါင်းဆောင်ရွက်သူသည် အကျိုးတူရင်းနှီးမြှုပ်နှံသူက တင်ပြသောနှစ်ချုပ် စာရင်းအား စစ်ဆေး၍ ကော်မတီသို့ ဆက်လက်တင်ပြအတည်ပြုချက်ရယူပြီး သဘောထားမှတ်ချက်ကို နှစ်စဉ်ဘဏ္ဍာရေးနှစ်ကုန်ဆုံးပြီး တစ်ဆက်တည်းဖြစ်သည့် မေလ(၃၁)ရက်နေ့ထက် နောက်မကျစေဘဲ အကျိုးတူရင်းနှီးမြှုပ်နှံသူထံ အတည်ပြု ပြန်ကြားပေးရန် သဘောတူပါသည်။

(င) အကျိုးတူရင်းနှီးမြှုပ်နှံသူသည် နှစ်စဉ်နှစ်ချုပ်စာရင်းအရ အကျိုးတူပူးပေါင်းဆောင်ရွက် သူက ရရှိမည့်အမြတ်ဝေစုကို သက်ဆိုင်ရာ ဘဏ္ဍာရေးနှစ်ကုန်ဆုံးပြီး ရက်ပေါင်း(၉၀) ဇွန်လ(၃၀)ရက် နောက်ဆုံးထား၍ ပေးချေရပါမည်။

## အပိုဒ်(၈) မှတ်ပုံတင်ခြင်း

စာချုပ်ဝင်များသည်ဤသဘောတူစာချုပ်ကိုသက်ဆိုင်ရာမှတ်ပုံတင်ရုံးတွင်ဤသဘောတူစာချုပ် ချုပ်ဆိုပြီး ရက်ပေါင်း(၃၀)အတွင်း မှတ်ပုံတင်ရပါမည်။ ၎င်းအတွက် ကုန်ကျသော ကုန်ကျစရိတ် များအား အကျိုးတူရင်းနှီးမြှုပ်နှံသူမှ ကျခံရမည်ဖြစ်ပါသည်။

## အပိုဒ်(၉) အကျိုးတူပူးပေါင်းဆောင်ရွက်သူနှင့် အကျိုးတူရင်းနှီးမြှုပ်နှံသူတို့၏ ကိုယ်စားပြုခြင်းနှင့် အာမခံချက်များ

၉-၁ အကျိုးတူပူးပေါင်းဆောင်ရွက်သူသည် အောက်ပါအတိုင်းကိုယ်စားပြုခြင်း နှင့် အာမခံခြင်း ပြုပါသည် -

(က) အကျိုးတူပူးပေါင်းဆောင်ရွက်သူသည် ဤသဘောတူစာချုပ်ကို ချုပ်ဆိုရန်အခွင့် အာဏာရှိပါသည်။

(ခ) ဤသဘောတူစာချုပ်သည် တရားဝင်ခိုင်မာ၍ အကျိုးတူပူးပေါင်းဆောင်ရွက်သူ၏ တာဝန်ဝတ္တရားများအပေါ် စည်းနှောင်မှုရှိပြီး သတ်မှတ်ထားသော စည်းမျဉ်းစည်းကမ်း များနှင့်အညီ အရေးယူဆောင်ရွက်ခွင့်ရှိပါသည်။

၉-၂ အကျိုးတူရင်းနှီးမြှုပ်နှံသူသည် အောက်ပါအတိုင်း ကိုယ်စားပြုခြင်းနှင့် အာမခံခြင်းပြုပါသည်။

(က) အကျိုးတူရင်းနှီးမြှုပ်နှံသူသည် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၏ ဥပဒေများနှင့် အညီတရားဝင်ဖွဲ့စည်းထားသောအများပိုင်ကုမ္ပဏီလီမိတက်တစ်ခုဖြစ်ပြီး၊ဤသဘောတူ စာချုပ်အား ချုပ်ဆို၍ စာချုပ်ပါစည်းမျဉ်းစည်းကမ်းများအား လိုက်နာဆောင်ရွက်ရန် တရားဝင် အခွင့်အာဏာရှိသော အဖွဲ့အစည်းဖြစ်ပါသည်။

(ခ) ဤသဘောတူညီချက်နှင့်စပ်လျဉ်း၍ ထပ်မံရယူရန်လိုအပ်သောကိစ္စများမှအပအကျိုးတူ ရင်းနှီးမြှုပ်နှံသူအား တရားဝင်လုပ်ကိုင်ဆောင်ရွက်ခွင့်ရှိစေရန် လိုအပ်သော ဥပဒေရေးရာ စီမံခန့်ခွဲမှုနှင့် အစိုးရဌာနဆိုင်ရာဆောင်ရွက်ထားမှုများ ရရှိပြီးဖြစ်ပါသည်။

(ဂ) ဤသဘောတူညီချက်သည် တရားဝင်ခိုင်မာ၍ အကျိုးတူရင်းနှီးမြှုပ်နှံသူ၏ တာဝန်ဝတ္တရားများအပေါ် စည်းနှောင်မှုရှိပြီး သတ်မှတ်ထားသော စည်းမျဉ်းစည်းကမ်းများနှင့်အညီ အရေးယူဆောင်ရွက်ခွင့်ရှိပါသည်။

(ဃ) ဤသဘောတူစာချုပ်အရ အကျိုးတူရင်းနှီးမြှုပ်နှံသူ၏ တာဝန်ဝတ္တရားများ ဆောင်ရွက်နိုင်မှုကို ထိခိုက်သက်ရောက်စေနိုင်သော တရားရုံး (သို့မဟုတ်) စီမံခန့်ခွဲမှု အဖွဲ့အစည်း (သို့မဟုတ်) ခုံသမာဓိရုံးရှေ့မှောက်၌ အရေးယူဆောင်ရွက်မှုများ၊ တရားစွဲဆိုမှုများ၊ မပြီးပြတ်သေးသော အမှုအခင်းများမရှိပါ။

(င) အကျိုးတူရင်းနှီးမြှုပ်နှံသူအား ဤသဘောတူညီချက်ကို ဆောင်ရွက်ခြင်းအတွက် လိုအပ်သော ကုမ္ပဏီဆိုင်ရာ ဆောင်ရွက်မှုများအရ တရားဝင်လုပ်ပိုင်ခွင့် ပေးအပ်ပြီးဖြစ်ပါသည်။ အကျိုးတူရင်းနှီးမြှုပ်နှံသူ စာချုပ်ဝင်အဖြစ် ပါဝင်သော (သို့မဟုတ်) ၎င်း၏ ပစ္စည်းဆိုင်ရာ တာဝန်ရှိနိုင်သော အခြားသဘောတူစာချုပ်စာတမ်းတစ်ခု၏ မည်သည့်သတ်မှတ်ချက်နှင့်မျှ ဆန့်ကျင်ခြင်း (သို့မဟုတ်) ဖောက်ဖျက်ခြင်းမရှိပါ။

အပိုဒ်(၁၀) အကျိုးတူပူးပေါင်းဆောင်ရွက်သူ၏ တာဝန်နှင့်အခွင့်အရေးများ

အကျိုးတူပူးပေါင်းဆောင်ရွက်သူ၏တာဝန်နှင့်အခွင့်အရေးများမှာအောက်ပါအတိုင်းဖြစ်ပါသည်-

(က) အကျိုးတူပူးပေါင်းဆောင်ရွက်သူသည် လုပ်ငန်းမြေနေရာနှင့်သက်ဆိုင်သော မြေခွန်ကို ပေးဆောင်ရမည်။

(ခ) အကျိုးတူပူးပေါင်းဆောင်ရွက်သူသည် ဤသဘောတူစာချုပ်တွင် ဖော်ပြထားသော လုပ်ငန်းများ တည်ဆောက်မှုပြီးစီးနိုင်ရန် အကျိုးတူရင်းနှီးမြှုပ်နှံသူက ခွင့်ပြုချက်များ ရရှိရေးအတွက် သက်ဆိုင်ရာဝန်ကြီးဌာနများ၊ အဖွဲ့အစည်းများနှင့်ညှိနှိုင်း၍ လိုအပ်သော ကူညီမှုပေးရမည်။

(ဂ) အကျိုးတူပူးပေါင်းဆောင်ရွက်သူသည် ဤသဘောတူစာချုပ်ပါ သတ်မှတ်ချက်များကို လေးစားလိုက်နာဆောင်ရွက်လျက်ရှိသည့် အကျိုးတူရင်းနှီးမြှုပ်နှံသူအား လုပ်ငန်းအကောင်အထည်ဖော်မှုကာလအတွင်း လုပ်ငန်းမြေနေရာကို ငြိမ်းချမ်းစွာ အသုံးပြုခွင့်ပေးရမည်။

(ဃ) ဤသဘောတူစာချုပ်လက်မှတ်ရေးထိုးပြီး အပိုဒ် ၅ တွင် ဖော်ပြထားသော လုပ်ငန်းဆောင်ရွက်မှုဘဏ်အာမခံတင်သွင်းသည့်အခါ လုပ်ငန်းမြေနေရာကို အကျိုးတူရင်းနှီးမြှုပ်နှံသူသို့ လုပ်ငန်းအဆောက်အအုံ တည်ဆောက်မှုလုပ်ငန်းများ ဆောင်ရွက်ရန် လက်ရောက်လွှဲပြောင်း ပေးအပ်ရမည်။

(င) လုပ်ငန်းမြေနေရာအတွင်း ပိုက်များ၊ ကြေးနန်းကြိုးများ မဟာဓာတ်အားလိုင်းများ စသည့် ဝန်ဆောင်မှုပေးသော တည်ရှိဆဲအသုံးအဆောင်ပစ္စည်းများ၊ လက်ရှိဖွင့်လှစ်ရောင်းချနေဆဲ ဈေးအဆောက်အအုံများရှိပါက ယင်းတို့ကို နေရာရွှေ့ပြောင်းခြင်း (သို့မဟုတ်) မထိခိုက်မိစေရန် ကာကွယ်ခြင်းတို့ကို အကျိုးတူပူးပေါင်း ဆောင်ရွက်သူမှ ပြောင်းရွှေ့ခွင့်ပြုချက်ရရှိရေး ညှိနှိုင်းဆောင်ရွက်ပေးရန်နှင့် ခွင့်ပြုချက်ရရှိပါကအကျိုးတူရင်းနှီးမြှုပ်နှံသူ၏စရိတ်ဖြင့် ဆောင်ရွက်ရမည်။ အကယ်၍ အဆိုပါ အသုံးအဆောင် ႕ -

ပစ္စည်းများ ရွှေ့ပြောင်းခြင်းကို ဆောင်ရွက်ရန် မဖြစ်နိုင်ပါက ဤသဘောတူ စာချုပ်ပါ လုပ်ငန်း အဆောက်အအုံတည်ဆောက်မှု အကွက်ချပုံစံများကို နှစ်ဖက်အကျိုးခံစားခွင့်ကို မထိခိုက်စေပဲ နှစ်ဦးနှစ်ဖက်ညှိနှိုင်းပြင်ဆင်ကြရန် သဘောတူကြပါသည်။ ထိုသို့ ညှိနှိုင်းရွှေ့ပြောင်းခြင်းအတွက် ကြာမြင့်သည့်ရက်များကို တည်ဆောက်ရေးကာလ အတွင်း ဆောင်ရွက်ရခြင်းကြောင့် လုပ်ငန်းကြန့်ကြာမှုရှိပါက အပိုဒ် ၆-၃ တွင် ဖော်ပြ သတ်မှတ်ထားသည့်လုပ်ငန်း ပြီးစီးရမည့်ကာလတွင် ထည့်သွင်းရေတွက် ခြင်းမပြုရန် နှစ်ဦးနှစ်ဖက်သဘောတူကြပါသည်။ အကယ်၍ ထိုပြင်ဆင်မှု သည် Shop House တည်ဆောက်မည့် လုပ်ငန်းမြေနေရာပေါ်တွင်ဖြစ်ပေါ်ပါက တည်ဆောက်မည့် Shop House အရေအတွက်ကို နှစ်ဖက်ညှိနှိုင်း၍ ပြန်လည် ပြင်ဆင်ကြရန်နှင့် ထိုသို့ ပြောင်းလဲသည့် အရေအတွက်အပေါ် အကျိုးတူပူးပေါင်း ဆောင်ရွက်သူမှ (၂၀%) လက်ခံရယူရန် သဘောတူပါသည်။

(စ) အပိုဒ် ၆-၁ အပိုင်း (၂) တွင်ဖော်ပြထားသည့် အကျိုးတူရင်းနှီးမြှုပ်နှံသူ အကျိုးခံစားခွင့်ရှိသည့် လုပ်ငန်းအဆောက်အအုံများနှင့် ပတ်သက်၍အောက်ပါ အတိုင်း ဆောင်ရွက်ပေးရန်သဘောတူပါသည်။

(၁) အပိုဒ် ၆-၁ အပိုင်း(၂)ပါ အကျိုးတူရင်းနှီးမြှုပ်နှံသူ အကျိုးခံစားခွင့်ရှိသည့် လုပ်ငန်း အဆောက်အအုံများတွင် ရောင်းချသည့်အခန်း များ/ အဆောက်အအုံ အသီးသီးအတွက် အကျိုးတူပူးပေါင်းဆောင်ရွက်သူမှ အကျိုးတူရင်းနှီးမြှုပ်နှံသူ ၏ အမည်ပေါက်ဖြစ်စေ၊ အကျိုးတူရင်းနှီးမြှုပ်နှံသူက ရောင်းချသူသို့ဖြစ်စေ တရားဝင် ပိုင်ဆိုင်ခွင့်ရှိသည့် စာရွက်စာတမ်း သက်သေခံအထောက်အထားကို ထုတ်ပေးရန်။

(၂) အပိုဒ် ၆-၁ အပိုင်း(၂) တွင်ဖော်ပြထားသည့်လုပ်ငန်းအဆောက်အအုံများသည် နောင်တချိန်တွင် သဘာဝဘေးအန္တရာယ် တစုံတရာကြောင့် (သို့မဟုတ်) အကြောင်း အမျိုးမျိုးကြောင့်ပြိုကျပျက်စီးလျှင်ဖြစ်စေ၊ အသုံးပြုရန်မဖြစ်နိုင် တော့သည့်အခြေအနေ ဖြစ်ပေါ်ခဲ့လျှင်ဖြစ်စေ ထိုလုပ်ငန်းအဆောက်အအုံ အသီးသီးအား လက်ဝယ်ပိုင်ဆိုင် အကျိုးခံစားလျက်ရှိသူအသီးသီးသည် မိမိတို့၏ကုန်ကျစရိတ်ဖြင့် အသစ်ပြန်လည် ဆောက်လုပ်နေထိုင် အသုံးပြုမည် ဆိုပါက အကျိုးတူပူးပေါင်းဆောင်ရွက်သူမှ ထိုသက်ဆိုင်သည့် မြေပေါ်တွင် လက်ဝယ်ပိုင်ဆိုင် အကျိုးခံစားလျက်ရှိသူတို့အား သက်ဆိုင်ရာ မြေအသီးသီး တွင် မူလအဆင့်အတန်းထက် မနိမ့်သော မူလအကျယ်အဝန်းထက် မပိုသည့် အဆောက်အအုံသစ်ကို မိမိတို့အစီအစဉ်ဖြင့် တည်ဆောက်၍ ဆက်လက် အသုံးပြု ပိုင်ခွင့်ပေးရန် သဘောတူပါသည်။

အပိုဒ်(၁၁) အကျိုးတူရင်းနှီးမြှုပ်နှံသူ၏ တာဝန်နှင့်အခွင့်အရေးများ

အကျိုးတူရင်းနှီးမြှုပ်နှံသူ၏ တာဝန်နှင့်အခွင့်အရေးများမှာ အောက်ပါအတိုင်းဖြစ်ပါသည် -

(က) အကျိုးတူရင်းနှီးမြှုပ်နှံသူသည် လုပ်ငန်းမြေနေရာကို လုပ်ငန်း အဆောက်အအုံများ တည်ဆောက် အကောင်အထည်ဖော်ရန်အတွက်သာ သီးသန့်အသုံးပြုရမည်။ လုပ်ငန်း မြေနေရာပေါ်တွင် လုပ်ငန်းအဆောက်အအုံများကို အကျိုးတူပူးပေါင်းဆောင်ရွက်သူက အတည်ပြုသည့် အဆောက်အဦအမျိုးအစား၊ ရေးဆွဲချက်တို့နှင့်အညီ စီမံတည်ဆောက်

ရမည်။ လုပ်ငန်းမြေနေရာကို ရောင်းချခြင်း၊ အငှားချထားခြင်း၊ ပေါင်နှံခြင်း၊ အခြားတစ်နည်းနည်းဖြင့် လွှဲပြောင်းခြင်းမပြုရ။

(ခ) လုပ်ငန်းအဆောက်အအုံအချို့အား လုပ်ငန်းလိုအပ်ချက်အရ ပုံစံပြင်ဆင်ပြောင်းလဲ တည်ဆောက်ရန်လိုအပ်ပါက အပိုဒ် ၆-၅ နှင့်အညီ အကျိုးတူပူးပေါင်းဆောင်ရွက်သူ၏ အတည်ပြုချက်ရယူ၍ အကျိုးတူရင်းနှီးမြှုပ်နှံသူ က ပြောင်းလဲတည်ဆောက်နိုင်ပါသည်။ သို့ရာတွင် အဆိုပါပြောင်းလဲ တည်ဆောက်သည့် Shop House အဆောက်အအုံ၏ စုစုပေါင်း ဧရိယာသည်မူလဧရိယာထက်တိုးမြင့်လာခဲ့ပါမူ ထိုတိုးမြင့်လာသည့်ဧရိယာ အပေါ်အကျိုး တူ ပူးပေါင်းဆောင်ရွက်သူ မှ ၂၀% အကျိုး ခံစားခွင့်ရှိရမည်။

(ဂ) အကျိုးတူရင်းနှီးမြှုပ်နှံသူသည် လုပ်ငန်းအကောင်အထည်ဖော်မှု သက်တမ်းကာလတွင် လုပ်ငန်းလိုအပ်ချက်အရသော်လည်းကောင်း၊ နည်းပညာလိုအပ်ချက်အရသော်လည်း ကောင်း ပြည်တွင်းပြည်ပရှိ အခြားမည်သည့်ပုဂ္ဂိုလ်နှင့်မဆို ပူးပေါင်းဆောင်ရွက် ခွင့်ရှိသည်။

(ဃ) အကျိုးတူရင်းနှီးမြှုပ်နှံသူသည် လုပ်ငန်းတစ်ခုလုံးကိုဖြစ်စေ၊ တစ်စိတ်တစ်ပိုင်းကိုဖြစ်စေ၊ အကောင်အထည်ဖော်ဆောင်ရွက်ရန် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ အရ ဖြစ်စေ၊ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုအရဖြစ်စေ၊ ယင်းဥပဒေများ ကို အခါအားလျော်စွာ ပြင်ဆင်သည့်ဥပဒေများနှင့်အညီ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ခွင့်ပြုချက် ရယူ ပြီး ဆောင်ရွက်နိုင်သည်။

(င) လုပ်ငန်းအဆောက်အအုံများ တည်ဆောက်ဆဲကာလအတွင်း အကြောင်းတစ်စုံတစ်ရာ ကြောင့် ထိခိုက်ပျက်စီးဆုံးရှုံးမှုများဖြစ်ပေါ်ပါက အကျိုးတူရင်းနှီးမြှုပ်နှံသူမှ မိမိစရိတ်ဖြင့် သတ်မှတ်စံချိန်စံညွှန်းများနှင့်အညီ ပြန်လည်ပြုပြင်တည်ဆောက်ရမည်။ တည်ဆောက် မည့် လုပ်ငန်းအဆောက်အအုံများအတွက် လိုအပ်သောအာမခံများကို မြန်မာ့အာမခံ ဥပဒေအရ အာမခံထားရှိရမည်။

(စ) အကျိုးတူရင်းနှီးမြှုပ်နှံသူသည် ဤသဘောတူစာချုပ်အရ ကျသင့်သည့်တံဆိပ်ခေါင်း ခွန်၊ မှတ်ပုံတင်ကြေး အပါအဝင် လုပ်ငန်းဆောင်ရွက်မှုနှင့်သက်ဆိုင်သော အခွန်အခ များ အားလုံးကျခံ ပေးသွင်းရမည်။

(ဆ) လုပ်ငန်းဆိုင်ရာ လုပ်ကိုင်ဆောင်ရွက်မှုများကို ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော် ဥပဒေစည်းမျဉ်းများ၊ လုပ်ထုံးလုပ်နည်းများ၊ ညွှန်ကြားချက်များနှင့်အညီ ဆောင်ရွက်ရ မည်။

(ဇ) ဤသဘောတူညီစာချုပ်အရ အကျိုးတူရင်းနှီးမြှုပ်နှံသူ၏တာဝန်များ ဆောင်ရွက်ခြင်းနှင့် သက်ဆိုင်သော စရိတ်စကများအားလုံးကို ကျခံရမည်။

(ဈ) အကျိုးတူရင်းနှီးမြှုပ်နှံသူ၏ လုပ်ငန်းဆောင်ရွက်မှုနှင့်စပ်လျဉ်း၍ ပြည့်စုံသောမှတ်တမ်း များ၊ ငွေစာရင်းများကို စနစ်တကျထိန်းသိမ်းထားရှိရမည်။

(ည) လုပ်ငန်းအကောင်အထည်ဖော်မှု သက်တမ်းကာလအတွင်း အကျိုးတူရင်းနှီးမြှုပ်နှံသူ နှင့် ယင်း၏ဝန်ထမ်းများအပေါ် တတိယပုဂ္ဂိုလ်များက စွဲဆိုတောင်းခံခြင်းနှင့်စပ်လျဉ်း၍ အကျိုးတူရင်းနှီးမြှုပ်နှံသူက ပေးလျော်ခြင်းနှင့် ထိခိုက်နစ်နာမှုမရှိစေရန် ဆောင်ရွက်ခြင်း တို့ကို တာဝန်ယူရမည်။

(ဋ) အကျိုးတူရင်းနှီးမြှုပ်နှံသူသည် လုပ်ငန်းအဆောက်အအုံများ တည်ဆောက်လုပ်ကိုင်မှု အတွက် ထပ်ဆင့်ကန်ထရိုက် ချုပ်ဆိုဆောင်ရွက်နိုင်သည်။ သို့ရာတွင် ထပ်ဆင့်

ကန်ထရိုက်တာမှ ဆောင်ရွက်မှုများအတွက် အကျိုးတူရင်းနှီးမြှုပ်နှံသူ၌သာ တာဝန်ရှိစေရမည်။

(၄) အကျိုးတူရင်းနှီးမြှုပ်နှံသူသည် မူလဈေးဟောင်းမှဈေးသည်များကို တည်ဆောက်ပြီးစီးသည့် အဆောက်အအုံတွင် အကျိုးတူပူးပေါင်းဆောင်ရွက်သူ အငှားချထားစဉ်ကစည်းကမ်းချက်များနှင့်အညီမူလအကျယ်အဝန်းနှင့် အနီးစပ်ဆုံး အကျယ်အဝန်းအတိုင်း ပြန်လည် အငှားချထားပေးပြီး၊ လုပ်ငန်းဆောင်ရွက်မှုကို အကျိုးတူရင်းနှီးမြှုပ်နှံသူ၏ စည်းမျဉ်းစည်းကမ်းများအတိုင်းစီမံအုပ်ချုပ်လုပ်ကိုင်သွားရန် သဘောတူပါသည်။

အပိုဒ်(၁၂) လုပ်ငန်းဦးတည်ချက်များ

အကျိုးတူပူးပေါင်း ဆောင်ရွက်သူသည် လက်ကားဈေးကြီး လုပ်ငန်းလည်ပတ် လုပ်ကိုင်ရာတွင် အောက်ပါတို့ကို ဦးတည်ဆောင်ရွက်ရမည် -

(က) စိုက်ပျိုးထုတ်လုပ်သူများမှ ဈေးနှုန်းမှန်ကန်စွာရရှိစေခြင်းဖြင့် မြန်မာနိုင်ငံလူဦးရေ ၇၀% ရှိသော တောင်သူလယ်သမားများ၏ အကျိုးစီးပွားများ တိုးတက်မှုရရှိစေရန်။

(ခ) စားသုံးသူများမှ အန္တရာယ်ကင်း၍ လတ်ဆတ်သော ကုန်ပစ္စည်းများကို သင့်လျော်မျှတသော ဈေးနှုန်းဖြင့် ဝယ်ယူရရှိနိုင်စေရန်။

(ဂ) ကျန်းမာရေးကို ထိခိုက်စေနိုင်သည့် ဓါတ်ကြွင်းများ ပါဝင်ခြင်းမရှိဘဲ စားသုံးသူများ ကျန်းမာရေးနှင့်ပြည့်စုံသော ဟင်းသီးဟင်းရွက်၊ သစ်သီးဝလံများ စားသုံးခွင့်ရရှိစေရန်။

(ဃ) သီးနှံများ ပျက်စီးလေလွင့်မှုများ လျော့နည်း၍ စိုက်ပျိုးသူ၊ ရောင်းသူ၊ ဝယ်သူများ၏ ဝင်ငွေနှင့် အသုံးစရိတ်များကို ထိရောက်အကျိုးရှိစေရန်။

(င) ဈေးကွက်၏ ရောင်းလိုအားနှင့် ဝယ်လိုအားကို ထိန်းညှိ၍ လက်လီလက်ကား ဖြန့်ဖြူးမှုစနစ်များ မှန်ကန်မှုရရှိစေရန်။

(စ) လယ်ယာကဏ္ဍ အလုပ်အကိုင် အခွင့်အလမ်းသစ်များ ပိုမိုရရှိလာစေရန်။

(ဆ) လယ်ယာသီးနှံပြည်ပပို့ကုန် အရေအတွက်နှင့် တန်ဖိုးတိုးတက်လာခြင်းဖြင့် လယ်ယာကဏ္ဍ၏ GDP တိုးတက်လာစေရန်။

(ဇ) စိုက်ပျိုးထုတ်လုပ်ရောင်းဝယ်သူများအတွက် လိုအပ်သောငွေကြေး အရင်းအနှီးများနှင့် နည်းပညာများရရှိ၍ ဝင်ငွေတိုးတက်ရရှိကာ လူမှုဘဝမြင့်မားလာစေရေးအတွက် ဖြည့်ဆည်း ဆောင်ရွက်ပေးရန်၊

အပိုဒ်(၁၃) သဘောတူစာချုပ်သက်တမ်း

ဤသဘောတူစာချုပ် သက်တမ်းမှာ လုပ်ငန်း စတင်လည်ပတ်သည့်နေ့မှစ၍ ကနဦးနှစ် ၅၀ (ငါးဆယ်) ဖြစ်သည်။ ကနဦးနှစ်(၅၀)ကုန်လွန်ပြီးနောက် တစ်ကြိမ်လျှင်ဆယ်နှစ်စီဖြင့် နှစ်ကြိမ်တဆက်တည်း တိုးမြှင့်နိုင်သည်။ အကျိုးတူရင်းနှီးမြှုပ်နှံသူမှ ဤသဘောတူစာချုပ် သက်တမ်းတိုးမြှင့်လိုပါက ကနဦးသက်တမ်းကာလမကုန်ဆုံးမီ အနည်းဆုံး သုံးလကြိုတင်၍ အကျိုးတူပူးပေါင်း ဆောင်ရွက်သူသို့ စာဖြင့်ရေးသားအကြောင်းကြားရမည်။

အပိုဒ်(၁၄) လုပ်ငန်းအဆောက်အအုံများ လွှဲပြောင်းပေးအပ်ခြင်း

ဤသဘောတူစာချုပ်သက်တမ်း ကုန်ဆုံးသည့်အခါဖြစ်စေ၊ ရပ်စဲသည့်အခါဖြစ်စေ၊ အကျိုးတူရင်းနှီးမြှုပ်နှံသူသည် လုပ်ငန်းမြေနေရာ၊ စီမံခန့်ခွဲခြင်းနှင့်အတူ လုပ်ငန်းမြေနေရာပေါ်ရှိ အပိုဒ် ၆-၁ အပိုင်း ၁ ပါ လုပ်ငန်းအဆောက်အအုံများနှင့် ယင်းအဆောက်အအုံများတွင် တပ်ဆင်ထားသည့် မရွှေ့မပြောင်းနိုင်သော ပစ္စည်းများအားလုံးကို သဘောတူစာချုပ် သက်တမ်း

ကုန်ဆုံးသည့် (သို့မဟုတ်) ရပ်စဲသည့်နေ့မှ တစ်လအတွင်း မည်သည့်အဖိုးစားနားမျှမပါရှိဘဲ အကျိုးတူပူးပေါင်းဆောင်ရွက်သူသို့ လွှဲပြောင်းပေးအပ်ခြင်းပြုရမည်။

အပိုဒ်(၁၅) ငွေကြေးရယူနိုင်မှု

ငွေကြေးရယူနိုင်မှုမှာ အောက်ပါအတိုင်းဖြစ်ပါသည်။ -

(က) အကျိုးတူရင်းနှီးမြှုပ်နှံသူသည် ဤသဘောတူစာချုပ်ပါလုပ်ငန်းအတွက် ပြည်ပ (သို့မဟုတ်) ပြည်တွင်းဘဏ်များ၊ ငွေရေးကြေးရေးအဖွဲ့အစည်းများ (သို့မဟုတ်) ငွေချေးသူများထံမှ ငွေကြေးအထောက်အပံ့ရယူနိုင်ပါသည်။

(ခ) အကျိုးတူရင်းနှီးမြှုပ်နှံသူသည် ချေးငွေအာမခံထားရှိရာတွင် ဤသဘောတူစာချုပ်အရ မိမိရရှိသည့်အကျိုးခံစားခွင့်များကိုသာ အပေါင်ပစ္စည်း(သို့မဟုတ်)အာမခံပစ္စည်းအဖြစ် ထားရှိနိုင်ပါသည်။

အပိုဒ်(၁၆) စည်းကမ်းသတ်မှတ်ချက်များ ဖောက်ဖျက်မှုနှင့်ကုစားမှုများ

၁၆-၁ အောက်ပါအကြောင်းအရာ တစ်ရပ်ရပ်သည် အကျိုးတူရင်းနှီးမြှုပ်နှံသူ၏ စည်းကမ်းဖောက်ဖျက်မှုဖြစ်သည် -

(က) အကျိုးတူရင်းနှီးမြှုပ်နှံသူသည် သတ်မှတ်ထားသောကာလအတွင်း လုပ်ငန်းအဆောက်အအုံများ စတင်တည်ဆောက်ရန် ပျက်ကွက်ခြင်း၊

(ခ) အကျိုးတူရင်းနှီးမြှုပ်နှံသူသည် ဤသဘောတူစာချုပ်နှင့်အညီ ခိုင်လုံသော အကြောင်းပြချက်မရှိဘဲ လုပ်ငန်းအဆောက်အအုံများ တည်ဆောက်မှုပြီးစီးအောင် ဆောင်ရွက်ရန် ပျက်ကွက်ခြင်း၊

(ဂ) အကျိုးတူရင်းနှီးမြှုပ်နှံသူသည် အကျိုးတူပူးပေါင်းဆောင်ရွက်သူက လုပ်ငန်းအဆောက်အအုံ၏ စံချိန်စံညွှန်းများအား စစ်ဆေးချက်အရ လိုအပ်သည့် ဆောင်ရွက်ချက်များ ဆောင်ရွက်ရန် ထုတ်ပြန်သော အကြောင်းကြားစာ (သို့မဟုတ်) ညွှန်ကြားချက်များကို လိုက်နာဆောင်ရွက်မှုမရှိခြင်း၊

(ဃ) အကျိုးတူရင်းနှီးမြှုပ်နှံသူသည် အကျိုးတူပူးပေါင်းဆောင်ရွက်သူ၏ ခွင့်ပြုချက်မရှိဘဲ လုပ်ငန်းအဆောက်အအုံများနှင့် ပတ်သက်၍ ၄င်း၏ မြီရှင်များ အကျိုးစီးပွားအတွက် စီမံဆောင်ရွက်မှုများပြုလုပ်ခြင်း (သို့မဟုတ်) စာရင်းရှင်းလင်း ဖျက်သိမ်းရန် ဆုံးဖြတ်ချက်ချမှတ်ခြင်း (သို့မဟုတ်) ကြွေးမြီအလို့ငှာ ပစ္စည်းထိန်းခန့်အပ်ခြင်း၊

(င) ဤသဘောတူစာချုပ်အရ အကျိုးတူရင်းနှီးမြှုပ်နှံသူ လိုက်နာဆောင်ရွက်ရမည့် စည်းကမ်းသတ်မှတ်ချက်များကို လိုက်နာရန် ပျက်ကွက်ခြင်း။

၁၆-၂ အထက်ဖော်ပြပါအကြောင်းအရာတစ်ရပ်ရပ်ပေါ်ပေါက်သည့်အခါ ယင်းကဲ့သို့စည်းကမ်းဖောက်ဖျက်မှုများကိုပြုပြင်ရန် အကျိုးတူရင်းနှီးမြှုပ်နှံ အကြောင်းကြားစာပေးပို့ပြီးနောက် အကြောင်းကြားစာပေးပို့သည့်နေ့မှ (၃၀) ရက်အတွင်းစတင်ပြုပြင်ခြင်း (သို့မဟုတ်) ကုစားပေးခြင်း မရှိပါက အကျိုးတူပူးပေါင်းဆောင်ရွက်သူသည် မြေပေါ်တွင် တည်ဆောက်ထားသော အဆောက်အအုံအပါအဝင် လုပ်ငန်းမြေနေရာကိုပြန်လည်ဝင်ရောက်၍ လက်ရောက် ရယူခွင့်ရှိပြီး လုပ်ငန်းအကောင်အထည်ဖော်ဆောင်ရွက်ခြင်းသည် ရပ်စဲရမည်ဖြစ်သည်။ သို့ရာတွင် ယင်းသို့ဝင်ရောက်၍ လက်ရောက်ရယူခြင်းသည် အကျိုးတူပူးပေါင်း ဆောင်ရွက်သူက

အကျိုးတူ ရင်းနှီးမြှုပ်နှံသူထံမှ ရရန်ရှိသော အဖိုးအခ (သို့မဟုတ်) နစ်နာဆုံးရှုံးမှုအတွက် လျော်ကြေး တစ်စုံတစ်ရာ တောင်းဆိုခွင့်ကို ထိခိုက်စေခြင်းမရှိစေရ။ လုပ်ငန်းမြေနေရာပေါ်ရှိ အဆောက်အအုံများ (သို့မဟုတ်) ယင်း၏အစိတ်အပိုင်းများကို အကျိုးတူပူးပေါင်း ဆောင်ရွက်သူက လျော်ကြေးပေးရခြင်းမရှိဘဲ လုံးဝပိုင်ဆိုင်ခွင့်ရှိစေရမည်။ အကျိုးတူရင်းနှီး မြှုပ်နှံသူသည် မည်သည့်အခါမျှ အကျိုးတူ ပူးပေါင်းဆောင်ရွက်သူနှင့် သဘောတူစာချုပ်ချုပ် ဆိုခဲ့ခြင်း မရှိဘိသကဲ့သို့ အကျိုးတူပူးပေါင်းဆောင်ရွက်သူမှ အဆိုပါမြေနှင့် မြေပေါ်ရှိ အဆောက်အအုံများနှင့် စပ်လျဉ်း၍ သင့်လျော်သည့် ထင်မြင်သည့်စည်းကမ်းချက်များဖြင့် တင်ဒါထပ်မံ ခေါ်ယူခွင့် ရှိစေရမည်။

အပိုဒ် (၁၇) သဘောတူစာချုပ်ရပ်စဲခြင်း

၁၇-၁ စာချုပ်ဝင်များသည် အောက်ဖော်ပြပါ အကြောင်းခြင်းရာတစ်ရပ်ရပ် ဖြစ်ပေါ်လာလျှင် ဤသဘောတူစာချုပ်ကို ရပ်စဲနိုင်သည်။

(က) ဤသဘောတူစာချုပ်ပါ စည်းကမ်းသတ်မှတ်ချက်များကို အကျိုးတူရင်းနှီးမြှုပ်နှံသူမှ ဆောင်ရွက်ရန်ပျက်ကွက်ခြင်း။

(ခ) ခြောက်လကာလတဆက်တည်းကြာမြင့်သည့် မလွန်ဆန်နိုင်သောဖြစ်ရပ် ပေါ်ပေါက်ခြင်း။

(ဂ) လုပ်ငန်း၏ မူလရည်မှန်းချက်များ၊ ရည်ရွယ်ချက်များကို ဆက်လက်အကောင်အထည် ဖော်နိုင်စွမ်းမရှိတော့ခြင်း။

(ဃ) နှစ်ဖက်သဘောတူစာချုပ်ရပ်စဲခြင်း။

၁၇-၂ အထက်ဖော်ပြပါ အပိုဒ် ၁၇-၁ (က) နှင့် ၁၇-၁ (ဂ) တို့အရ သဘောတူစာချုပ် ရပ်စဲသည့်အခါ စာချုပ်ရပ်စဲပြီးနောက် (တစ်) လအတွင်း လုပ်ငန်းမြေနေရာနှင့်တကွ မြေပေါ်ရှိ အဆောက် အအုံများ၊ တပ်ဆင်ထားသည့် မရွေ့မပြောင်းနိုင်သော ပစ္စည်းများအပါအဝင် အားလုံးတို့ကို အကျိုးတူရင်းနှီးမြှုပ်နှံသူကအကျိုးတူပူးပေါင်းဆောင်ရွက်သူသို့ အဖိုးစားနားမဲ့ ပြန်လည်ပေးအပ် ရမည်။

၁၇-၃ အထက်ဖော်ပြပါ အပိုဒ် ၁၇-၁ (ခ) နှင့် ၁၇-၁ (ဃ)အရ သဘောတူစာချုပ်ရပ်စဲသည့်အခါ အကျိုးတူပူးပေါင်းဆောင်ရွက်သူနှင့် အကျိုးတူရင်းနှီးမြှုပ်နှံသူတို့ညှိနှိုင်းပြီး နှစ်ဖက်နစ်နာမှု မရှိအောင် ဆောင်ရွက်ရမည်။

အပိုဒ် (၁၈) မလွန်ဆန်နိုင်သော ဖြစ်ရပ်များ

စာချုပ်ဝင်တစ်ဖက်ဖက်သည် မလွန်ဆန်နိုင်သောဖြစ်ရပ်ကြောင့် ဤသဘောတူစာချုပ်အရ ဆောင်ရွက်ရမည့်တာဝန်များကို ဆောင်ရွက်ရန်(သို့မဟုတ်) အခြားတစ်ဦးဦး၏ ဆောင်ရွက်မှုကို လက်ခံရန် လုံးဝဖြစ်စေ၊ တစ်စိတ်တစ်ဒေသဖြစ်စေ၊ ယာယီအားဖြင့် လုပ်ဆောင်နိုင်စွမ်းမရှိလျှင် ထိုသို့လုပ်ဆောင်နိုင်စွမ်း မရှိသည့်ဘက်မှ မလွန်ဆန်နိုင်သောဖြစ်ရပ်၏ အသေးစိတ်အကြောင်းအရာဖော်ပြလျက် လုပ်ဆောင်နိုင်စွမ်း မရှိသော ဖြစ်ရပ်ပေါ်ပေါက်ပြီးနောက် (၁၄)ရက်အတွင်း အခြားတစ်ဖက်သို့ အကြောင်းကြားစာပေးပို့ရမည်။

မလွှန်ဆန်နိုင်သောဖြစ်ရပ်၏ အကျိုးသက်ရောက်မှုခံရသည့် စာချုပ်ဝင်တစ်ဖက်၏ တာဝန်များကို အခြားစာချုပ်ဝင်တစ်ဖက်၏ အတည်ပြုချက်ဖြင့် ထိုသို့မစွမ်းဆောင်နိုင်မှု ဖြစ်ပေါ်လာသည့် ကာလအတွင်း (ထိုကာလထက် လုံးဝမကျော်လွန်စေဘဲ) ရပ်ဆိုင်းထားရမည်။ ထို့ပြင် ထိုသို့ မစွမ်းဆောင်နိုင်မှု ဖြစ်ပေါ်ရသည့်အကြောင်းအရင်းကို ဖြစ်နိုင်သမျှဆောလျင်စွာ ဖယ်ရှားပစ်ရမည်။

မလွှန်ဆန်နိုင်သောဖြစ်ရပ်၏ ကြာမြင့်သောအချိန်အား လုပ်ငန်းအဆောက်အအုံများ တည်ဆောက်သည့်ကာလတွင် နှစ်ဖက်သဘောတူညီချက်ဖြင့် တိုးမြှင့်ပေးနိုင်ပါသည်။

မလွှန်ဆန်နိုင်သော ဖြစ်ရပ်ဆိုသည်မှာ သဘာဝဘေးအန္တရာယ်များ၊ အလုပ်ပိတ်ထားခြင်း၊ စစ်မက်ဖြစ်ပွားခြင်း၊ သပိတ်မှောက်ခြင်း၊ စက်မှုဆိုင်ရာဆူပူလှုပ်ရှားမှုများ၊ ပေါက်ကွဲမှုများ၊ မီးလောင်ခြင်း၊ ရေကြီးခြင်း၊ မြေငလျင် လှုပ်ခြင်း၊ မုန်တိုင်းကျရောက်ခြင်း၊ မိုးကြိုးပစ်ခြင်းနှင့် တစ်ဦးဦးက ထိန်းချုပ်နိုင်စွမ်းမရှိသော ထိုက်သင့်သော ဂရုပြုမှု၊ ဝီရိယစိုက်ထုတ်မှုပြုလျက်နှင့် တစ်ဦးဦးက ကျော်လွှားနိုင်ခြင်းမရှိသော ဖော်ပြခဲ့ပြီးသည့် အလားတူ အကြောင်းတစ်ရပ်ရပ်ကိုဆိုလိုသည်။

## အပိုဒ်(၁၉) ညှိနှိုင်းဆွေးနွေးခြင်းနှင့်စာချုပ်ပြင်ဆင်ခြင်း

ဤသဘောတူစာချုပ်တွင် ရည်ရွယ်ထားခြင်းမရှိသော အကြောင်းအခြင်းအရာများကြောင့် အခြေအနေတစ်ရပ်ရပ်ပေါ်ပေါက်လာပြီး ဤသဘောတူစာချုပ်ကို ပြောင်းလဲရန် လိုအပ်လာလျှင် စာချုပ်ဝင်များသည် ညှိနှိုင်းဆွေးနွေးမှုများ ပြုလုပ်ပြီး သဘောတူစာချုပ်ကို စာဖြင့်ပြင်ဆင်ချုပ်ဆိုရမည်။

## အပိုဒ် (၂၀) ဓါတ်သတ္တုအရင်းအမြစ်နှင့်ရတနာများ

ဤသဘောတူစာချုပ် သက်တမ်းအတွင်း လုပ်ငန်းမြေနေရာ၏ မြေပေါ်မြေအောက်အတွင်းမှ မမျှော်လင့်ဘဲ ဓါတ်သတ္တုအရင်းအမြစ်များ၊ ကျောက်မျက်ရတနာများနှင့် သဘာဝသယံဇာတများ၊ ရှေးဟောင်းပစ္စည်းများစသည်တို့ကိုတွေ့ရှိလျှင် သက်ဆိုင်ရာမြန်မာနိုင်ငံတော်အစိုးရအဖွဲ့အစည်းသို့ ချက်ချင်း အကြောင်းကြားတင်ပြပေးရမည်။ ထိုပစ္စည်းများကို နိုင်ငံတော်ကပိုင်ဆိုင်ပြီး နိုင်ငံတော်ကခွင့်ပြုလျှင် အကျိုးတူ ပူးပေါင်းဆောင်ရွက်သူနှင့်သက်ဆိုင်ရာအဖွဲ့အစည်းကမည်သည့်အချိန်၌မဆိုလွတ်လပ်စွာတူးဖော်ရယူ ခွင့်ရှိစေရမည်။

## အပိုဒ် (၂၁) ပတ်ဝန်းကျင်ထိန်းသိမ်းကာကွယ်ခြင်း

အကျိုးတူရင်းနှီးမြှုပ်နှံသူသည် စွန့်ပစ်ပစ္စည်းများ စနစ်တကျစွန့်ပစ်ခြင်း၊ ရေဆိုးများ သန့်စင်စေခြင်း၊ ရေလွှတ်စနစ်ထားရှိခြင်းတို့အတွက် လိုအပ်သောစီမံဆောင်ရွက်မှုများ ပြုလုပ်ထားရမည်။ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၏ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ တည်ဆဲဥပဒေများ၊ နည်းဥပဒေများ၊ စည်းမျဉ်းစည်းကမ်းများ၊လုပ်ထုံးလုပ်နည်းများနှင့်အညီ အကျိုးတူရင်းနှီးမြှုပ်နှံသူသည် ပတ်ဝန်းကျင်ညစ်ညမ်းမှုမရှိစေရန် ဆောင်ရွက်ရမည်။

## အပိုဒ်(၂၂) သဘောတူစာချုပ်၏အစိတ်အပိုင်း

ဤသဘောတူစာချုပ်တွင် ပူးတွဲထားသော နောက်ဆက်တွဲများသည် သဘောတူစာချုပ်၏ တစ်စိတ်တစ်ဒေသဖြစ်ရမည်။

## အပိုဒ်(၂၃) စာပေးစာယူပြုလုပ်ခြင်း

စာပေးစာယူပြုလုပ်ရာတွင် မြန်မာဘာသာ (သို့မဟုတ်) အင်္ဂလိပ်ဘာသာဖြင့် ရေးသား၍ မှတ်ပုံတင်စာပို့ခြင်း၊ လေကြောင်းစာပို့ခြင်း၊ အမြန်ချောပို့ခြင်း၊ တဲလက်စ်ဖြင့်ပို့ဖြင့်၊ အီးမေးလ်၊ ဖက်စ်ဖြင့် ပို့ခြင်း တို့ကို အသုံးပြု၍ အောက်ပါလိပ်စာအတိုင်း ချက်ချင်းဆက်သွယ်ရမည်။ လိပ်စာပြောင်းလဲခြင်းရှိပါက တစ်ဖက်သို့ ချက်ချင်းအသိပေး အကြောင်းကြားရမည်။

(က) အကျိုးတူပူးပေါင်းဆောင်ရွက်သူ

| | | |
|---|---|---|
| ဖက်စ်နံပါတ် | : | |
| ဖုန်းနံပါတ် | : | |
| လိပ်စာ | : | ဈေးများဌာန<br>ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီ |
| ဆက်သွယ်ရန် | : | ဦးစံရွှေထွန်း၊ ဌာနမှူး |

(ခ) အကျိုးတူရင်းနှီးမြှုပ်နှံသူ

| | | |
|---|---|---|
| ဖက်စ်နံပါတ် | : | ၀၁-၅၁၆၆၀၆ |
| ဖုန်းနံပါတ် | : | ၀၁-၅၀၃၅၁၅၊ ၅၁၄၂၂၆ |
| လိပ်စာ | : | အမှတ် ၂၆၂-၂၆၄ ပြည်လမ်း၊Dagon Center 1BlockA<br>7th Floor, စမ်းချောင်းမြို့နယ်၊ |
| ဆက်သွယ်ရန် | : | Myanmar Agro Exchange Public Ltd<br>အမှတ် ၂၆၂-၂၆၄ ပြည်လမ်း၊Dagon Center 1BlockA<br>7th Floor, စမ်းချောင်းမြို့နယ်၊ |

အပိုဒ်(၂၄) သဘောတူစာချုပ်အကျိုးသက်ရောက်ခြင်း

ဤသဘောတူစာချုပ်သည် အကျိုးတူရင်းနှီးမြှုပ်နှံသူနှင့် အကျိုးတူပူးပေါင်းဆောင်ရွက်သူ တို့ နှစ်ဦးနှစ်ဘက် လက်မှတ်ရေးထိုးသည့်နေ့မှစ၍ အကျိုးသက်ရောက်မှုရှိစေရမည်။

အပိုဒ် (၂၅) လုပ်ငန်းမြေနေရာတွင် မှားယွင်းဖော်ပြချက်

နောက်ဆက်တွဲ(၁) လုပ်ငန်းမြေနေရာဖော်ပြရာတွင် မည်သည့်မှားယွင်းမှု တစ်စုံတစ်ရာမျှ ဤသဘောတူစာချုပ်ကိုဖြစ်စေ၊ အကျိုးတူရင်းနှီးမြှုပ်နှံသူ၏လုပ်ငန်းဆောင်ရွက်မှုကိုဖြစ်စေ၊ တရားမဝင် မဖြစ်စေရ။ အကျိုးတူရင်းနှီး မြှုပ်နှံသူမှလျော်ကြေးတစ်စုံတစ်ရာ တောင်းဆိုခွင့်မရှိစေရ။

အပိုဒ် (၂၆) အငြင်းပွားမှုဖြေရှင်းခြင်း

ဤသဘောတူစာချုပ်ပါ သတ်မှတ်ချက်များနှင့်စပ်လျဉ်း၍ အငြင်းပွားမှုတစ်စုံတစ်ရာ ပေါ်ပေါက်ပါက ယင်းအငြင်းပွားမှုကို နှစ်ဖက်ညှိနှိုင်းဆွေးနွေးခြင်းဖြင့် ငြိမ်းချမ်းစွာဖြေရှင်းကြရမည်။ အဆိုပါ အငြင်းပွားမှုကိုနှစ်ဖက်ကျေနပ်သည်အထိ ဖြေရှင်း၍မရပါက ဥပဒေနှင့်အညီ စီရင်ပိုင်ခွင့်ရှိသော တရားရုံး၏ အဆုံးအဖြတ်ကို ခံယူရမည်။

## အပိုဒ်(၂၇) လျှို့ဝှက်ထားရှိခြင်း

၂၇-၁ စာချုပ်ဝင်အသီးသီးသည် ၎င်းတို့နှင့်အလုပ်သမားများ၊ အရာရှိများ၊ ကိုယ်စားလှယ်များနှင့် ဒါရိုက်တာများအား အခြားစာချုပ်ဝင်က "လျှို့ဝှက်" "လျှို့ဝှက်ချက်များ" ဟု ရေးသား၍ ၎င်းအားထုတ်ဖော်ပြသခဲ့သည့် သတင်းအချက်အလက်များ၊ စာချုပ်စာတမ်းများ၊ အချက်အလက် (သို့မဟုတ်) အသိပညာတို့ကိုလျှို့ဝှက်ထိန်းသိမ်းထားရှိစေရန် သဘောတူညီကြပါသည်။ အခြားစာချုပ်ဝင်၏ ကြိုတင်သဘောတူညီချက်မရရှိဘဲ လျှို့ဝှက်ချက်များကို (သို့မဟုတ်) ယင်း၏အစိတ်အပိုင်းကို အခြားလုပ်ငန်းအဖွဲ့အစည်းများသို့ ထုတ်ဖော်ပြသခြင်း (သို့မဟုတ်) အသုံးပြုစေခြင်းမပြုရ။ သို့ရာတွင် လျှို့ဝှက်ချက်များအား

(က) သက်ဆိုင်ရာဥပဒေများ၊ ပြဌာန်းဥပဒေများ၊ အမိန့်များ၊ ဒီဂရီများ၊ စည်းမျဉ်းများ၊ တားမြစ်ထားသည့်အမိန့်များ၊ လိုင်စင်များ၊ ခွင့်ပြုမိန့်များ၊ အတည်ပြုမှုများ၊ သဘောတူညီမှုများ၊ စည်းမျဉ်းများ (သို့မဟုတ်) အငြင်းပွားမှုပြဿနာအပေါ် စီရင်ပိုင်ခွင့်ရှိသော အစိုးရအဖွဲ့အစည်းတစ်ခု၏ တားမြစ်ချက် (သို့မဟုတ်) အယူခံခွင့်မရှိသောအပြီးသတ်ဆုံးဖြတ်ချက်အရ အစိုးရအဖွဲ့ အစည်းတစ်ခုသို့ ထုတ်ဖော်ပြသနိုင်သည်။

(ခ) တာဝန်ဝတ္တရားအရ အဆိုပါထုတ်ဖော်ပြသမှုလိုအပ်သည့် ငွေရေးကြေးရေးအဖွဲ့အစည်းများ၊ အတိုင်ပင်ခံပုဂ္ဂိုလ်များနှင့် ကန်ထရိုက်တာများသို့ ထုတ်ဖော်ပြသနိုင်သည်။ သို့ရာတွင် သဘောရိုးဖြင့် လွတ်လပ်သော ဥပဒေရေးရာအကြံပေးပုဂ္ဂိုလ်များသို့ ထုတ်ဖော်ပြသခြင်းမှအပ အဆိုပါအခြားပုဂ္ဂိုလ်သည် ရှေးဦးစွာလျှို့ဝှက်ချက်များကို အခြားသူများအား ထပ်မံပြသခြင်းမပြုဘဲ လျှို့ဝှက်ထားပါမည်ဟု သဘောတူညီရမည်။

၂၇-၂ အပိုဒ်၂၆ ပါ ကန့်သတ်ချက်များသည် အောက်ပါလျှို့ဝှက်သတင်းအချက်အလက်များနှင့် သက်ဆိုင်မှုမရှိစေရ။

(က) လျှို့ဝှက်ချက်များ၏ အစိတ်အပိုင်းတစ်ခုသည် အများပြည်သူနှင့်သက်ဆိုင်သော နေရာများတွင် အထက်အပိုဒ်ခွဲ (က)ကို ချိုးဖောက်ခြင်းမပြုဘဲရရှိခြင်း(သို့မဟုတ်)

(ခ) ထုတ်ဖော်ပြသခြင်းမပြုမီကပင် လက်ခံရရှိသော စာချုပ်ဝင်(သို့မဟုတ်) ၎င်း၏အလုပ်သမား၊ အရာရှိ၊ ကိုယ်စားလှယ်(သို့မဟုတ်)ဒါရိုက်တာတစ်ဦးဦးက တရားဝင်လက်ဝယ်ရှိခြင်း။

၂၇-၃ ဤသဘောတူစာချုပ်သက်တမ်းကုန်ဆုံးသည့်အချိန် (သို့မဟုတ်) ၎င်းထက်စော၍ ဤစာချုပ်ရပ်စဲသော်လည်း ဤအပိုဒ်ပါ လျှို့ဝှက်ထားရှိခြင်းတာဝန်ကို (၃နှစ်) ဆက်လက်ထိန်းသိမ်းထားရှိရမည်။

## အပိုဒ် (၂၈) ပြဌာန်းချက်များ သီးခြားစီဖြစ်ခြင်း

စီရင်ပိုင်ခွင့်ရှိသော တရားရုံးတစ်ခု (သို့မဟုတ်) ခုံသမာဓိရုံးတစ်ခုမှ ဤသဘောတူစာချုပ်ပါ ပြဌာန်းချက်တစ်ရပ်အား တရားမဝင်ခြင်းနှင့် အကျိုးသက်ရောက်ခြင်းမရှိဟုချမှတ်ခဲ့လျှင် ဤစာချုပ်တစ်ခုလုံးသည် တရားမဝင်ခြင်းမဖြစ်စေရပါ။ တရားမဝင်ကြောင်းဆုံးဖြတ်သည့် ပြဌာန်းချက် (သို့မဟုတ်) ပြဌာန်းချက်

များအား စာချုပ်ဝင်များရည်ရွယ်သော တရားဝင်ပြဌာန်းချက်များဖြင့် အကျိုးသက်ရောက်မှုပေးသည်ဟု သဘောတူစာချုပ်ကို မှတ်ယူရမည်။ ကျန်ရှိသည့်စာချုပ်တွင် ပါဝင်သော ပြဌာန်းချက်များအနေဖြင့် ခိုင်လုံသည့် တရားဝင်ပြဌာန်းသတ်မှတ်ချက်များ ဖြစ်ရပါမည်။ တရားမဝင်ဟု ဆုံးဖြတ်ထားသည့် ပြဌာန်းချက်များအား စာချုပ်ဝင်များအချင်းချင်း သဘောရိုးဖြင့်ညှိနိုင်း၍ ပြဌာန်းချက်အသစ်များဖြင့် မူလရည်ရွယ်ချက်ကို ပြန်လည် ထိန်းသိမ်း၍ ဤသဘောတူညီချက်အား အကျိုးသက်ရောက်စေရမည် ဖြစ်ပါသည်။

အပိုဒ် (၂၉) အခွင့်အရေးများကို စွန့်လွှတ်ခြင်း

မည်သည့်စာချုပ်ဝင်မျှစွန့်လွှတ်သောစာချုပ်ဝင်၏ အခွင့်အာဏာလွှဲအပ်ထားသော ပုဂ္ဂိုလ်မှ လက်မှတ်ရေးထိုးထားသည့်စွန့်လွှတ်ခြင်းစာဖြင့် အခြားစာချုပ်ဝင်သို့ပေးပို့ခြင်းမှတစ်ပါး ဤသဘောတူစာချုပ် အရ အခွင့်အရေးတစ်ရပ်ကိုစွန့်လွှတ်သည်ဟုမှတ်ယူခြင်းမရှိစေရ။ လုပ်ပိုင်ခွင့် (သို့မဟုတ်) ကုစားခွင့်ကို ကျင့်သုံးရန် နှောင့်နှေးခြင်း (သို့မဟုတ်) ပျက်ကွက်ခြင်းသည် ပျက်ကွက်မှု (သို့မဟုတ်) ထိခိုက်မှုကို စွန့်လွှတ် သည်ဟု မှတ်ယူခြင်းမရှိစေရ။

အပိုဒ်(၃၀) အသုံးစရိတ်များ

စာချုပ်ဝင်အသီးသီးသည် ကိုယ်စားလှယ်များ၊ အတိုင်ပင်ခံပုဂ္ဂိုလ်များ၊ ရှေ့နေ၊ စာရင်းကိုင်များ စသည် တို့အတွက် ကုန်ကျစရိတ်များအပါအဝင် ဤသဘောတူစာချုပ်အား ဆွေးနွေးညှိနှိုင်းခြင်း၊ ပြင်ဆင်ခြင်း၊ ဆောင် ရွက်ခြင်းတို့အတွက် လိုအပ်သော ကုန်ကျစရိတ်နှင့် အသုံးစရိတ်များကို မိမိတို့ကိုယ်ပိုင်မှကျခံရမည်။

အပိုဒ်(၃၁) ခေါင်းစဉ်

ဤသဘောတူစာချုပ်ပါခေါင်းစဉ်များသည် လွယ်ကူစေရန်အတွက်သာဖြစ်ပြီး အနက်အဓိပ္ပါယ် ကောက် ယူခြင်းအပေါ် အကျိုးသက်ရောက်ခြင်းမရှိစေရ။

အပိုဒ်(၃၂) အထွေထွေ

(၁) ဤသဘောတူစာချုပ်တွင် နောက်ဆက်တွဲ (၁)၊(၂)၊(၃)၊(၄)(၅)၊(၆)နှင့်(၇) တို့ကို ပူးတွဲထားပြီး ၎င်းတို့သည် ဤသဘောတူစာချုပ်၏အစိတ်အပိုင်းများဖြစ်၍ စာချုပ်ဝင်များအပေါ် စည်းနှောင် မှုရှိစေရမည်။

(၂) မည်သည့်စာချုပ်ဝင်မျှ တစ်ဖက်စာချုပ်ဝင်၏ စာဖြင့်ရေးသားသဘောတူညီမှုမရရှိဘဲ ဤ သဘောတူစာချုပ်ပါ အခွင့်အရေး (သို့မဟုတ်) တာဝန်များကိုတတိယပုဂ္ဂိုလ်တစ်ဦးသို့ လွှဲပြောင်းခြင်းမပြုရ။ သို့ရာတွင် ဤသတ်မှတ်ချက်သည် အကျိုးတူရင်းနှီးမြှုပ်နှံသူမှ အပိုဒ် ၆-၁ အပိုင်း-၂ ပါ မိမိအကျိုးခံစားခွင့်ရှိသောလုပ်ငန်းအဆောက်အအုံများလွှဲပြောင်းရောင်းချပိုင်ခွင့် ကို တားမြစ်ခြင်းမရှိစေရ။

(၃) ဤသဘောတူစာချုပ်သည် စာချုပ်ဝင်များ၏ တစ်ခုတည်းသော သဘောတူညီချက်ဖြစ်ပြီး ယခင်အချင်းချင်းအကြား သဘောတူညီမှုများ၊ နားလည်မှုများအားလုံးကို လွှမ်းမိုးသည်။

## 3. Financial risk management

(a) Foreign exchange risk

Foreign exchange risk arises from purchase of equipment and raw material purchased and loan payable in foreign currency.

(b) Credit Risk

The carrying amount of bank deposits, other receivables, prepayment and deposits included in the financial statements of the company. However the Company had made arrangement by laying down policy so that risk is at a minimum.

(c) Market risk

The Company is operating in Yangon where there is competition in foreign market risk.

(d) Liquidity and cash flow risks

The Company monitors and maintains a level of bank balances deemed adequate by the directors to finance the operation and mitigate the effects of fluctuation in cash flow.

## 4. Fund management

The Company's objectives, when managing its funds, are to safeguard and maintain adequate working capital to continue as a going concern.

## 5. Property and equipment

| | 2016 |
|---|---|
| **Original Cost** | |
| Opening balance | - |
| **Additions** | |
| Furniture and fitting | 1,723,500.00 |
| **Total** | **1,723,500.00** |
| **Depreciation** | |
| Opening balance | - |
| **During the year** | |
| Furniture and fitting | 47,875.00 |
| **Accumulated depreciation** | **(47,875.00)** |
| **Balance as at 31st March, 2016** | **1,675,625.00** |

## 6. Cash at bank

| | 2016 |
|---|---|
| Current | 144,383,383.88 |
| Saving | 27,028,467.06 |
| | 171,411,850.94 |

## 7. Advance, prepayment and other receivables

| | 2016 |
|---|---:|
| Advance expenses | **25,655,000.00** |
| Advance construction contract | **6,208,638,145.12** |
| Other receivables | **69,870,000.00** |
| | **6,304,163,145.12** |

## 8. Issued and paid-up capital

All issued ordinary shares were fully subscribed. Par value of an ordinary share is Kyat 10,000. One fully paid-up share has a voting right for each and has the same right when the Company declares dividend.

After the fiscal year 2015-2016, the company has sold 500,000 shares amounting to Kyat 5,000,000,000 and paid in as share capital. In second step the BOD has decided to issue another 500,000 shares amounting to Kyat 5,000,000,000 to be given to who have subscribed as a right issue. As a third step, the BOD has offered to the subscribers to issue 1,000,000 shares. From out of 1,000,000 shares, the organizers purchased 572,000 shares, and total value Kyat 5,720,000,000 was already allotted. So a total of 1,572,000 shares amounting to Kyat 15,720,000,000 have been subscribed before offering up to the public.

## 9. Trade and other payable

| | 2016 |
|---|---:|
| Other payable | **9,450,000.00** |
| Advance received | **16,754,003.00** |
| | **26,204,003.00** |

## 10. Significant Commitments and Obligations

The company has appointed Dagon international Limited as its main construction- contractor in order that the terms and conditions of tender para 5(A) 16 could be fulfilled. The Company has signed a contract of land lease on March 22, 2016 to pay the following benefits.

1. Contract with the Yangon City Development Committee
   The company has executed land lease agreement on with the following rights
   - To give to YCDC 20% of 200 shop house to which 40
   - After the business has started, to pay an amount equal to 25% of profit before tax as land lease rent
2. Contract with Dagon International Ltd
   (a) The company has contracted Dagon International Ltd to construct of Danyingone whole sale market in order to fulfill the terms and conditions of tender para 5(A) 16
   (b) The company will on October 30,2016, will allot 45% of shares which is equal to 450,000 shares not in cash but will be set off against labour charges for the construction Danyingone whole sale market.
3. Other auxiliary contracts
   (a) Contract to buy steel from Zamil Steel (Vietnam)
   (b) Design for Drain to be draw by B4 (France) Consultant.

## 11. Related party transactions

In addition to the information disclosed elsewhere in the consolidated financial statements, the following transactions took place between the Company and the related parties at terms agreed between the parties;

**(a) Sales and Purchase of Goods and Service**

| | During FY 15-16 | As at FY 15-16 | Nature of transaction |
|---|---|---|---|
| Dagon International Limited | 6,208,638,145.12 | 6,208,638,145.12 | Construction Contract |

**(b) Key management personnel and director compensation**

There is no management personnel and director compensation during the year.

**(c) Agreement between related parties**

The company has agreed to construct the Danyingone on whole sale market according to the terms and condition stated in para 5 (A) / 16 and has appointed Dagon International Ltd of the main contractor. Please see details of note (10)

## 12. Subsequent events of the Company

According to the BOD's meeting (3/2016) dated 20.6.2016, the board has agreed to obtain loan amounting to Kyat 5,000 million the Company has agreed to obtain loan Kyat 4,500 million from Ayarwaddy bank.

Ayarwaddy bank will provide the loan in accordance with the following rules and regulations.

1. The first loan of Kyat 2,500 will be provided for the construction of 24 shop house. At the time of receiving loan, the shop houses are under construction.
2. The second loan of Kyat 2,000 million will be provided after the current project has been completed.

Ayarwaddy bank has taken the followings as pledged property.

1. 24 shop houses out of 32 which are under construction owned by the Company.
2. The work agreement to construct of Danyingone whole sale market.

The type of loan is demand loan and the annual interest rate is 13% and the Company agreed to pay 2% cost of borrowing.

As first, second and third installment, loan amount of Kyat 500 million, Kyat 1,000 million and another Kyat 1,000 million have been received on 3.8.2016, 2.9.2016 and on 20.9.2016 respectively.

## 13. Authorization of financial statements

These financial statements were authorized for issue in accordance with a resolution of the Board of Directors of **Myanmar Agro Exchange Public Limited** on December 23, 2016.

မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေအရ

အစုရှယ်ယာများဖြင့် တာဝန်ကန်သတ်ထားသည့်

အများနှင့်သက်ဆိုင်သောကုမ္ပဏီလီမိတက်

# မြန်မာအက်ဂရိုအိတ်(စ်)ချိန်း ပတ်ဘလစ်လီမိတက်

၏

## သင်းဖွဲ့မှတ်တမ်း

နှင့်

## သင်းဖွဲ့စည်းမျဉ်း

မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ

အစုရှယ်ယာများဖြင့် ပေးရန်တာဝန် ကန့်သတ်ထားသော အများနှင့်သက်ဆိုင်သည့် ကုမ္ပဏီ

# "မြန်မာအက်ဂရို အိတ်(စ်)ချိန်း ပတ်ဘလစ်လီမိတက်"

၏

## သင်းဖွဲ့မှတ်တမ်း

❖ ❖ ❖ ❖ ❖ ❖ ❖

၁။ ကုမ္ပဏီ၏အမည်သည် "မြန်မာအက်ဂရို အိတ်(စ်)ချိန်း ပတ်ဘလစ်လီမိတက်" ဖြစ်ပါသည်။ ယခုမှစ၍ နောင်တွင် ကုမ္ပဏီဟု ခေါ်သည်။

၂။ ကုမ္ပဏီ၏မှတ်ပုံတင် အလုပ်တိုက်သည် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အတွင်း တည်ရှိရမည်။

၃။ ကုမ္ပဏီတည်ထောင်ရခြင်း၏ ရည်ရွယ်ချက်များမှာ အောက်ပါအတိုင်း ဖြစ်ပါသည်။

(က) နိုင်ငံတကာအဆင့်မီ သစ်သီးဝလံ၊ ဟင်းသီးဟင်းရွက်၊ ပန်းမန်နှင့် လယ်ယာထွက်ကုန် လက်ကားဈေးသစ်ကြီးတစ်ခု ပေါ်ပေါက်လာစေရန်။

(ခ) စိုက်ပျိုးသူတောင်သူများ၊ လက်လီလက်ကားရောင်းဝယ်သူများ ပစ္စည်းမှန်၊ ဈေးနှုန်းမှန် ရရှိနိုင်မည့် လက်ကားဈေးသစ် အဆောက်အဦးတစ်ခု ပေါ်ထွက်လာစေရန်။

(ဂ) မြန်မာ့သစ်သီးဝလံနှင့် ဟင်းသီးဟင်းရွက်၊ ပန်းမန်နှင့် လယ်ယာထွက်ကုန်များ တန်ဖိုးမြင့် ထုတ်လုပ်တင်ပို့ရောင်းချရန်။

(ဃ) စိုက်ပျိုးထုတ်လုပ်သူများမှ ဈေးနှုန်းမှန်ကန်စွာရရှိစေခြင်းဖြင့် မြန်မာနိုင်ငံလူဦးရေ ၇၀% ရှိသော တောင်သူလယ်သမားများ၏ အကျိုးစီးပွားများ တိုးတက်ရရှိစေရန်။

(င) စားသုံးသူများမှ အန္တရာယ်ကင်း၍ လတ်ဆတ်သော ကုန်ပစ္စည်းများကို သင့်လျော်မျှတသောဈေးနှုန်းဖြင့် ဝယ်ယူရရှိနိုင်စေရန်။

(စ) ကျန်းမာရေးကို ထိခိုက်စေနိုင်သည့် ဓါတ်ကြွင်းများပါဝင်ခြင်းမရှိဘဲ စားသုံးသူများ ကျန်းမာရေးနှင့်ပြည့်စုံသော ဟင်းသီးဟင်းရွက်၊ သစ်သီးဝလံများ စားသုံးခွင့်ရရှိစေရန်။

(ဆ) သီးနှံများ ပျက်စီးလေလွင့်မှုများလျော့နည်း၍ စိုက်ပျိုးသူ၊ ရောင်းသူ၊ ဝယ်သူများ၏ ဝင်ငွေနှင့် အသုံးစရိတ်များ ထိရောက်အကျိုးရှိစေရန်။

(ဈ) စျေးကွက်၏ ရောင်းလိုအားနှင့် ဝယ်လိုအားကို ထိန်းညှိ၍ လက်လီလက်ကားဖြန့်ဖြူးမှုစနစ်များ မှန်ကန်မှုရရှိစေရန်။

(ဗျ) လယ်ယာကဏ္ဍ အလုပ်အကိုင် အခွင့်အလမ်းသစ်များ ပိုမိုရရှိလာစေရန်။

(ည) လယ်ယာသီးနှံပြည်ပပို့ကုန် အရေအတွက်နှင့် တန်ဖိုးတိုးတက်လာခြင်းဖြင့် လယ်ယာကဏ္ဍ၏ GDP တိုးတက်လာစေရန်။

(ဋ) ကုန်စည်စီးဆင်းမှု မြန်ဆန်စေရေးအတွက် သယ်ယူပို့ဆောင်ရေးလုပ်ငန်းများ စနစ်တကျ ဆောင်ရွက်ရန်။

(ဌ) Agro Commodity Exchange Centre တစ်ခု အကောင်အထည်ဖော် ဆောင်ရွက်နိုင်ရန်။

(ဍ) သင့်လျော်သော တရားဥပဒေနှင့် ညီညွတ်မည်ဟုထင်မြင်သော စည်းကမ်းချက်များဖြင့် ပုဂ္ဂိုလ်၊ ကုမ္ပဏီ၊ အထူးသဖြင့် ကုမ္ပဏီနှင့် ဆက်ဆံဆောင်ရွက်နေသော ပုဂ္ဂိုလ်များသို့ ငွေထုတ်ချေးခြင်း၊ ငွေရယူခြင်းများ၊ အသေးစားငွေရေးကြေးရေးလုပ်ငန်းများ၊ ဘဏ်လုပ်ငန်းများ ဆောင်ရွက်ရန်။

(ပ) ကုမ္ပဏီ၏ ရည်ရွယ်ချက်များနှင့်တူညီသော သို့မဟုတ် တစိတ်တစ်ဒေသအားဖြင့် တူညီသော မည်သည့် ငွေရေးကြေးရေးကုမ္ပဏီနှင့်မဆို ပူးပေါင်းရန်နှင့် ကုမ္ပဏီက လုပ်ပိုင်ခွင့်ရှိသော လုပ်ငန်းများ သို့မဟုတ် လုပ်ငန်းကိုလုပ်ကိုင်ခြင်းဖြင့် ကုမ္ပဏီအတွက် တိုက်ရိုက်သော်လည်းကောင်း၊ သွယ်ဝိုက်၍ သော်လည်းကောင်း အကျိုးရှိမည်ဆိုပါက မည်သည့် ပုဂ္ဂလိက ကုမ္ပဏီနှင့်မဆို အစုစပ်သို့မဟုတ် အမြတ်ခွဲဝေယူသည့်အစီအစဉ်၊ အကျိုးတူဆောင်ရွက်မှု၊ ပူးပေါင်းဆောင်ရွက်မှု၊ ဖက်စပ်လုပ်ကိုင်ရန် သို့မဟုတ် အပြန်အလှန်လုပ်ပိုင်ခွင့် အခွင့်အရေးပေးသည့် အစီအစဉ် တို့ဖြင့်လုပ်ဆောင်ရန်၊ ယင်း ပုဂ္ဂလိက ကုမ္ပဏီအား ငွေချေးငှားရန် ပဋိညာဉ်စာချုပ်များကို အာမခံပေးရန် သို့မဟုတ် အခြားနည်း ဖြင့် ကူညီရန်နှင့် ယင်းကုမ္ပဏီ၏ အစုရှယ်ယာများ၊ ငွေချေးသက်သေခံ လက်မှတ်များကို ရယူရန်နှင့် ၎င်းအစုရှယ်ယာများ၊ ငွေချေးသက်သေခံ လက်မှတ်များကို အာမခံချက် ရှိသည်ဖြစ်စေ၊ မရှိသည် ဖြစ်စေ၊ ရောင်းရန်၊ ကိုင်ဆောင်ထားရန်၊ ပြန်လည်ထုတ်ပေးရန် သို့မဟုတ် အခြားနည်းဖြင့် ရောင်း ဝယ်ဖောက်ကားရန်။

(ဏ) လိုင်စင်များ၊ သူတပါးပိုင်နက်တွင် သုံးစွဲပိုင်ခွင့်များနှင့် အခြားအခွင့်အရေးများကို ရောင်းရန်၊ တိုးတက်ကောင်းမွန်အောင် ပြုလုပ်ရန်၊ စီမံခန့်ခွဲရန်၊ ဖွံ့ဖြိုးလာစေရန်၊ အကျိုးရှိစွာအသုံးပြုရန်၊ လဲလှယ်ရန်၊ အငှားချထားရန်၊ ထုတ်ပေးရန်နှင့် အခြားနည်းလမ်းများဖြင့် ဆောင်ရွက်ရန် သို့မဟုတ် ကုမ္ပဏီ၏လုပ်ငန်းဆောင်တာများ၊ ပစ္စည်းများ၊ အခွင့်အရေးများ၊ ပစ္စည်းပစ္စယများ၊ အသုံး အဆောင်များ၊ အားလုံးကိုဖြစ်စေ၊ တစ်စိတ်တစ်ဒေသဖြစ်စေ၊ သို့မဟုတ်ထိုပစ္စည်းများ အစိတ်အပိုင်း တစ်ခုကို အဖိုးအခယူ၍ စီမံခန့်ခွဲရန်နှင့် ထုခွဲရန်နှင့် အထူးသဖြင့်အခြား ကုမ္ပဏီများ၊ ပုဂ္ဂိုလ်များ၏ ငွေအပြည့်အဝ ပေးပြီးဖြစ်သော ငွေချေးသက်သေခံလက်မှတ်များကို စီစဉ်ဆောင်ရွက်ရန်၊ ထုခွဲရန် နှင့် ကိုင်ဆောင်ထားရန်။

(တ) ကုမ္ပဏီနှင့်ရည်ရွယ်ချက်များ သို့မဟုတ် ရည်ရွယ်ချက်အချို့ကို အကောင်အထည် ဖော်ရာ၌ အထောက်အကူ ဖြစ်စေမည်ဟုယူဆပါက မည်သည့်အစိုးရ၊ အပြည်ပြည်ဆိုင်ရာ အဖွဲ့အစည်းများ သို့မဟုတ် အမြင့်ဆုံးအာဏာပိုင်အဖွဲ့၊ ဒေသန္တရအာဏာပိုင်အဖွဲ့ သို့မဟုတ် အခြား အဖွဲ့အစည်း များနှင့် အစီအစဉ်များချုပ်ဆိုရန် ၎င်းအဖွဲ့အစည်းများထံမှ ပိုင်ဆိုင်ခွင့်များ၊ အထူးအခွင့်အရေး များနှင့် လုပ်ပိုင်ခွင့်အခွင့်အရေးများကို ရယူရန်နှင့် ဖော်ပြပါအစီအစဉ်များ၊ ပိုင်ဆိုင်ခွင့်များ၊

အထူးအခွင့်အရေးများနှင့် လုပ်ပိုင်ခွင့် အခွင့်အရေးများကို အကောင်အထည်ဖော်ရန်၊ အသုံးပြုရန်နှင့် လိုက်နာဆောင်ရွက်ရန်။

(ထ) ကုမ္ပဏီ၏ဂုဏ်သိက္ခာ၊ ဂုဏ်သတင်းတိုးတက်လာအောင်ပံ့ပိုးရန်နှင့် အထောက်အကူဖြစ်စေရန် ရည်ရွယ်၍ လိုအပ်သည့်အစီအစဉ်များ၊ လုပ်နည်း၊ ကိုင်နည်းများချမှတ်လုပ်ဆောင်ရန်၊ ပြည်သူလူထု၏ ယုံကြည်စိတ်ချမှုရရှိစေရန်၊ ဆောင်ရွက်ရန်နှင့် ကုမ္ပဏီကို ထိခိုက်စေမည့် ငွေရေးကြေးရေးဂယက်များ၊ အနှောက်အယှက်များကို ရှောင်ဖယ်ရန်နှင့် နည်းနိုင်သမျှ နည်းအောင်ဆောင်ရွက်ရန်။

(ဒ) ကုမ္ပဏီမှ သင့်လျော်လျောက်ပတ်သည်ဟု ယူဆပါက ကုမ္ပဏီ၏စီးပွားရေးလုပ်ငန်းတွင် အကျိုးရှိစေရန်အတွက် မည်သည့်ပုဂ္ဂိုလ်၊ စီးပွားရေးအဖွဲ့အစည်း၊ ကုမ္ပဏီ၊ သို့မဟုတ် ငွေကြေးအဖွဲ့အစည်းထံမှမဆို ငွေချေးယူရန်။

(ဓ) အထက်ပါ လုပ်ငန်းများနှင့်ဆက်နွယ်သည့် မည်သည့်လုပ်ငန်းနှင့် ဝန်ဆောင်မှုလုပ်ငန်းမျိုးကိုမဆို သက်ဆိုင်ရာမှ ကြိုတင်သဘောတူညီချက် သို့မဟုတ် လိုင်စင် သို့မဟုတ် ခွင့်ပြုချက်များ ရရှိပါက ဆောင်ရွက်ရန်။

ကုမ္ပဏီသည် ဤသင်းဖွဲ့မှတ်တမ်းက ပေးအပ်ထားသောရည်ရွယ်ချက် အားလုံးကိုဖြစ်စေ၊ ရည်ရွယ်ချက်အချို့ကိုဖြစ်စေ၊ ကမ္ဘာပေါ်ရှိ မည်သည့်ဒေသ၌မဆို အကောင်အထည်ဖော်ရန် လုပ်ပိုင်ခွင့်အပြည့်အဝ ရှိစေရမည်။

ခြွင်းချက်။ ။ ကုမ္ပဏီသည် အထက်ဖော်ပြပါ ရည်ရွယ်ချက်များကို ပြည်ထောင်စုမြန်မာနိုင်ငံတော် အတွင်း၌ဖြစ်စေ အခြားမည်သည့် အရပ်ဒေသ၌ဖြစ်စေ၊ အချိန်ကာလအလိုက်တည်မြဲနေသော တရားဥပဒေများ၊ အမိန့်ကြော်ငြာစာများ၊ အမိန့်များက ခွင့်ပြုထားသည့် လုပ်ငန်းများမှအပ အခြားလုပ်ငန်းများကို လုပ်ကိုင်ဆောင်ရွက်ခြင်းမပြုပါ။ ထို့အပြင် ပြည်ထောင်စုမြန်မာနိုင်ငံတော်အတွင်း၌ အချိန်ကာလအားလျော်စွာ တည်မြဲနေသည့်တရားဥပဒေ ပြဋ္ဌာန်းချက်များ၊ အမိန့်များနှင့် လျော်ညီသင့်တော်ခြင်း သို့မဟုတ်၊ ခွင့်ပြုထားခြင်းရှိမှသာလျှင် လုပ်ငန်းများကို ဆောင်ရွက်မည်ဟု ခြွင်းချက်ထားရှိပါသည်။

၄။ အစုဝင်များ၏ ပေးရန်တာဝန်ကို ကန့်သတ်ထားသည်။

၅။ ကုမ္ပဏီ၏ သတ်မှတ်မတည်ငွေရင်းသည် ကျပ် ၂၅,၀၀၀,၀၀၀,၀၀၀/- (ကျပ်နှစ်ဆယ့်ငါးဘီလီယံတိတိ) ဖြစ်၍ ငွေကျပ် ၁၀,၀၀၀/- (ကျပ်တစ်သောင်းတိတိ) တန် အစုရှယ်ယာပေါင်း (၂,၅၀၀,၀၀၀) ခွဲထားပါသည်။

အောက်တွင်အမည်၊ နိုင်ငံသား၊ နေရပ်နှင့် အကြောင်းအရာ စုံလင်စွာပါသော ဖယ
လက်မှတ်ရေးထိုးသူ ကျွန်ုပ်တို့ ကိုယ်စီကိုယ်ငှသည် ဤသင်းဖွဲ့မှတ်တမ်းအရ ကုမ္ပဏီတစ်ခုဖွဲ့စ
လိုလားသည့်အလျောက် ကျွန်ုပ်တို့၏ အမည်အသီးသီးနှင့် ယှဉ်တွဲ၍ပြထားသော အစုရှယ်ယာများကို
၏ မတည်ရင်းနှီးငွေတွင် ထည့်ဝင်ရယူကြရန် သဘောတူကြပါသည်။

| စဉ် | အစုထည့်ဝင်သူများ၏<br>အမည်၊ နေရပ်လိပ်စာနှင့် အလုပ်အကိုင် | နိုင်ငံသားနှင့်<br>အမျိုးသား<br>မှတ်ပုံတင်အမှတ် | ဝယ်ယူသော<br>အစုရှယ်ယာ<br>ဦးရေ | ထိုးမြဲလက်မှ |
|---|---|---|---|---|
| ၁။ | ဒဂုန်အင်တာနေရှင်နယ်လီမိတက်<br>အမှတ် ၂၆၂-၂၆၄၊ ပြည်လမ်း၊ ဒဂုန်စင်တာ၊<br>Block A၊ ၇လွှာ၊ မြေနီကုန်း၊<br>စမ်းချောင်းမြို့နယ်၊ ရန်ကုန်မြို့။<br>(ကိုယ်စားပြုသူ)<br>ဦးဝင်းအောင်<br>အမှတ် (၁၀၅)၊ တက္ကသိုလ်<br>ရိပ်သာလမ်း၊ ကမာရွတ်မြို့နယ်၊ ရန်ကုန်မြို့။ | ကုမ္ပဏီ<br>၁၈၂/၁၉၉၀-၁၉၉၁<br>(၁၀-၈-၁၉၉၀)<br><br>မြန်မာ<br>၁၂/ကမရ(နိုင်)<br>၀၀၈၂၂၀ | ၂၂၅,၀၀၀ | |
| ၂။ | ရွှေနိုင်ငံအရှေ့အာရှဖွံ့ဖြိုး တိုးတက်ရေး<br>လီမိတက်<br>အမှတ် (၂၉)၊ မင်းရဲကျော်စွာလမ်း၊<br>လမ်းမတော်မြို့နယ်၊ ရန်ကုန်မြို့။<br>(ကိုယ်စားပြုသူ)<br>ဦးအောင်ဇော်ဦး<br>အခန်း (၄၀၁)၊ အောင်ဇေယျကွန်ဒို၊<br>သိပ္ပံလမ်း၊ ဆင်မင်းရပ်ကွက်၊ အလုံမြို့နယ်၊<br>ရန်ကုန်မြို့။ | ကုမ္ပဏီ<br>၁၃၇၂/၂၀၀၆-၂၀၀၇<br>(၂၈-၂-၂၀၀၇)<br><br>မြန်မာ<br>၁၂/မဂဒ(နိုင်)<br>၁၀၄၆၁၉ | ၇၅,၀၀၀ | |
| ၃။ | ဦးစစ်လွင်<br>အမှတ် (၆၄၄)၊ ပထမထပ်ကုန်သည်လမ်း၊<br>ပန်းဘဲတန်းမြို့နယ်၊ ရန်ကုန်မြို့။<br>(ကုန်သည်) | မြန်မာ<br>၁၄/ပသန(နိုင်)<br>၁၅၀၆၇၄ | ၆၀,၀၀၀ | |
| ၄။ | ဦးသူရိန်အောင်<br>အမှတ် (၁၀၅)၊ တက္ကသိုလ်ရိပ်သာလမ်း၊<br>ကမာရွတ်မြို့နယ်၊ ရန်ကုန်မြို့။<br>(ကုန်သည်) | မြန်မာ<br>၁၂/ကမရ(နိုင်)<br>၀၅၀၈၃၉ | ၅၅,၀၀၀ | |
| ၅။ | ဦးဘုန်းဘုန်းနိုင်<br>အမှတ် (၂၉၀)စီ၊ ဦးဝိစာရလမ်း၊<br>(၁၀)ရပ်ကွက်၊ ကမာရွတ်မြို့နယ်၊<br>ရန်ကုန်မြို့။<br>(ကုန်သည်) | မြန်မာ<br>၉/မနမ(နိုင်)<br>၀၀၇၅၉၃ | ၄၀,၀၀၀ | |

| စဉ် | အစုထည့်ဝင်သူများ၏ အမည်၊ နေရပ်လိပ်စာနှင့် အလုပ်အကိုင် | နိုင်ငံသားနှင့် အမျိုးသား မှတ်ပုံတင်အမှတ် | ဝယ်ယူသော အစုရှယ်ယာ ဦးရေ | ထိုးမြဲလက်မှတ် |
|---|---|---|---|---|
| ၆။ | ဒေါ်ခိုင်သဇင်စိုး<br>အခန်း (၄၀၁)၊ အောင်ဇေယျကွန်ဒို၊<br>သိပ္ပံလမ်း၊ ဆင်မင်းရပ်ကွက်၊ ရန်ကုန်မြို့။<br>(ကုန်သည်) | မြန်မာ<br>၉/မမန(နိုင်)<br>၀၀၀၄၃၂ | ၂၀,၀၀၀ | |
| ၇။ | ဒေါ်မိုးမြမြ<br>အမှတ် (၁၀၅)၊ တက္ကသိုလ်ရိပ်သာလမ်း၊<br>ကမာရွတ်မြို့နယ်၊ ရန်ကုန်မြို့။<br>(ကုန်သည်) | မြန်မာ<br>၁၂/ကမရ(နိုင်)<br>၀၄၅၀၃၉ | ၅,၀၀၀ | |
| ၈။ | ဒေါ်အိနှင်းပွင့်<br>အမှတ် (၂၉၀)စီ၊ ဦးဝိစာရလမ်း၊<br>(၁၀)ရပ်ကွက်၊ ကမာရွတ်မြို့နယ်၊ ရန်ကုန်မြို့။<br>(ကုန်သည်) | မြန်မာ<br>၁၂/ကမရ(နိုင်)<br>၀၅၀၈၃၈ | ၅,၀၀၀ | |
| ၉။ | ဦးရဲထွတ်ဝင်း<br>အမှတ် (၃၁)၊ ပုလဲလမ်း၊<br>အောင်မြေသာစည်အိမ်ရာ (၁)ရပ်ကွက်၊<br>ကမာရွတ်မြို့နယ်၊ ရန်ကုန်မြို့။<br>(ကုန်သည်) | မြန်မာ<br>၁၃/မတန(နိုင်)<br>၀၀၁၀၀၅ | ၅,၀၀၀ | |
| ၁၀။ | ဦးကျော်ဇောအောင်<br>အမှတ် (၆၈)ဘီ၊ သန္တာလမ်း၊<br>အောင်မြေသာစည်အိမ်ရာ (၁)ရပ်ကွက်၊<br>ကမာရွတ်မြို့နယ်၊ ရန်ကုန်မြို့။<br>(ကုန်သည်) | မြန်မာ<br>၁၂/စခန(နိုင်)<br>၀၄၃၇၃၆ | ၅,၀၀၀ | |
| ၁၁။ | ဦးအောင်ကြီး<br>အမှတ် (၁၉)၊ ညောင်စီရေကန်ကျောင်းလမ်း၊<br>(၂)ရပ်ကွက်၊ လှိုင်မြို့နယ်၊ ရန်ကုန်မြို့။<br>(ကုန်သည်) | မြန်မာ<br>၁၄/ဝခမ(နိုင်)<br>၀၀၇၄၄၄ | ၅,၀၀၀ | |

ရန်ကုန်၊ နေ့စွဲ၊ ၂၀၁၅ ခုနှစ်၊ စက်တင်ဘာလ၊ ၈ ရက်။

အထက်ပါလက်မှတ်ရှင်များသည် ကျွန်ုပ်၏ရှေ့မှောက်တွင်
လက်မှတ်ရေးထိုးကြပါသည်။

ဦးမိုးကျော် (ဘီကွမ်း၊ စီပီအေ၊ ဒီဘီအယ်လ်၊ အေစီဂီ ...)
(စာရင်းစစ်)
အမှတ်-၁၈၂/၁၉၄၊ဗိုလ်တစ်ထောင်ဘုရားလမ်း၊ရန်ကုန်မြို့။

မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ

အစုရှယ်ယာများဖြင့် ပေးရန်တာဝန် ကန့်သတ်ထားသော အများနှင့်သက်ဆိုင်သည့် ကုမ္ပဏီ

# "မြန်မာအက်ဂရို အိတ်(စ်)ချိန်း ပတ်ဘလစ် လီမိတက်"

၏

## သင်းဖွဲ့စည်းမျဉ်းများ

### စကားချီး

၁။ မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေ ပထမဇယား ပုံစံ(က)တွင်ပါရှိသော စည်းမျဉ်းများသည် ကုမ္ပဏီကအတိအလင်း ထည့်သွင်းဖော်ပြထားသော သို့မဟုတ် အကျုံးဝင်စေရမည်ဟု သဘော ဆောင်သော ပြဋ္ဌာန်းချက်များမှတပါး ဤကုမ္ပဏီနှင့်သက်ဆိုင်မှုမရှိစေရ၊ မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေပုဒ်မ ၁၇၊ ပုဒ်မခွဲ (၂) တွင် မလိုက်နာမနေရ သတ်မှတ်ထားသည့် စည်းမျဉ်းများသည် ဤကုမ္ပဏီနှင့် အမြဲသက်ဆိုင်စေရမည်။

### အဓိပ္ပါယ်ပြန်ဆိုခြင်း

၂။ ဤစည်းမျဉ်းများတွင်ပါရှိသော စကားရပ်များသည် အတိအလင်းအဓိပ္ပါယ်ပေါ်လွင်သည့် စကားရပ် များမှတစ်ပါး ဤစည်းမျဉ်းများက နောင်တွင် ကုမ္ပဏီဟုဖော်ပြမည့် "မြန်မာအက်ဂရို အိတ်(စ်)ချိန်း ပတ်ဘလစ်လီမိတက်" ပေါ် စတင်အာဏာ သက်ရောက်သည့်နေ့မှစ၍ မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေ သို့မဟုတ် ယင်းဥပဒေများတွင် ပြင်ဆင်ပြဋ္ဌာန်းသည့် အဓိပ္ပါယ် ဖော်ပြချက်နှင့်အညီ ဖြစ်စေရမည်။ ထိုသို့ အပြန်အလှန်အားဖြင့် ဧကဝုဒ်ကိန်း အဖြစ်ဖော်ပြသော စကားရပ်များတွင် ဗဟုဝုဒ်ကိန်းများလည်း ပါဝင်သည်။ ထို့အပြင် ပုလ္လိင်ဖြင့်ဖော်ပြသော စကားရပ် များတွင် ဣတ္ထိလိင်များလည်း ပါဝင်စေရမည်။

၃။ ထို့အပြင် နောင်တွင်ဖော်ပြထားသည့် စကားရပ်များသည် ၎င်းတို့အတွက် သတ်မှတ်ထားသည့် အဓိပ္ပါယ်များ ရှိစေရမည်။

(က) မတည်ငွေရင်း --- ဆိုသည်မှာ ကုမ္ပဏီ၏ မတည်ငွေရင်းကို ဆိုလိုသည်။

(ခ) ဒါရိုက်တာများ --- ဆိုသည်မှာ တည်ဆဲကုမ္ပဏီ၏ သင်းဖွဲ့စည်းမျဉ်းများနှင့်အညီ ခန့်အပ် ထားပြီးလျှင် အနည်းဆုံးအစုရှယ်ယာ ပိုင်ဆိုင်မှုအရည်အချင်း ပြည့်မီသူ ဒါရိုက်တာများ ဆိုလိုသည်။

(ဂ) လွတ်လပ်စွာဆောင်ရွက်နိုင်သော ဒါရိုက်တာများ ------ ဆိုသည်မှာ ကုမ္ပဏီနှင့် ဆက်နွယ် ပတ်သက်နေသောသူများ၏ အကျိုးစီးပွားကို ကာကွယ်နိုင်ရန်အလို့ငှာ ဒါရိုက်တာအဖွဲ့ ရွေးချယ်၍ အစုရှင်များက အထွေထွေအစည်းအဝေးတွင် အတည်ပြုခန့်အပ်သော ဒါရိုက်တာအရည်အချင်းပြည့်မီရန် အစုရှယ်ယာ ပိုင်ဆိုင်မှုမလိုအပ်သော လွတ်လပ်

ဆောင်ရွက်နိုင်သော ဒါရိုက်တာများကို ဆိုလိုပါသည်။ ၎င်းတို့သည် အခြားဒါရိုက်တာများ နည်းတူတာဝန် ဝတ္တရားများနှင့် လုပ်ပိုင်ခွင့်များရှိသည်။

(ဃ) အတွင်းရေးမှူး --- ဆိုသည့်စကားရပ်တွင် ခေတ္တ သို့မဟုတ် လက်ထောက်အတွင်းရေးမှူး နှင့် အတွင်းရေးမှူး၏ တာဝန်ဝတ္တရားတစ်ခုခုကို ဆောင်ရွက်ရန်၊ ဒါရိုက်တာများက ခန့်ထားသူ တစ်ဦးဦးလည်း ပါဝင်သည်။

(င) အစုရှင်ဆိုသည်မှာ --- ကုမ္ပဏီ၏ အစုရှယ်ယာများကို ပိုင်ဆိုင်သည့် မှတ်ပုံတင် အစုရှင် တစ်ဦးဦးကို ဆိုလိုသည်။

(စ) အလုပ်တိုက် --- ဆိုသည်မှာ ကုမ္ပဏီ မှတ်ပုံတင်ထားသော အလုပ်တိုက်ကို ဆိုလိုသည်။

(ဆ) ငွေပေးသွင်းပြီးသည့် --- ဆိုသည့်စကားရပ်တွင် ငွေပေးသွင်းပြီးဟု စာရင်းပြသည် ဆိုသည့် စကားရပ်လည်း ပါဝင်သည်။

(ဇ) တံဆိပ် ---- ဆိုသည်မှာ ကုမ္ပဏီ၏ တရားဝင်သုံး တံဆိပ်တုံးကို ဆိုလိုသည်။

(ဈ) အက်ဥပဒေ --- ဆိုသည်မှာ မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေကို ဆိုလိုသည်။

(ည) စာဖြင့် ---- ဆိုသည်မှာ ရေးသားထားသည့်စာ၊ ပုံနှိပ်ထားသည့်၊ ကျောက်ပုံနှိပ်သည့်စာ သို့မဟုတ် စကားများကို မြင်သာအောင်ဖော်ပြသည့် နည်းတစ်မျိုးမျိုးဖြင့် ဖော်ပြထားသည့် စာကိုဆိုလိုသည်။

(ဋ) ကုမ္ပဏီ --- ဆိုသည်မှာ "မြန်မာအက်ဂရိုအိတ်(စ်)ချိန်း ပတ်ဘလစ်လီမိတက်" ကို ဆိုလိုသည်။

(ဌ) အလားအလာညွှန်းတမ်း -----ဆိုသည်မှာ အက်ဥပဒေပုဒ်မ ၂ (၁၄) အရ အဓိပ္ပါယ် ဖော်ညွှန်းသည့် အစုရှယ်ယာများထည့်ဝင်ရန် ဖိတ်ခေါ်ကမ်းလှမ်းခြင်းများကို ဆိုလိုပါသည်။

(ဍ) မှတ်ပုံတင်အရာရှိ ----- ဆိုသည်မှာ အက်ဥပဒေပုဒ်မ ၂ (၁၅) အရ အဓိပ္ပါယ် ဖော်ညွှန်းသည့် ကုမ္ပဏီများအား မှတ်ပုံတင်ပေးသည့်အရာရှိကိုဆိုလိုပါသည်။

## အများနှင့်သက်ဆိုင်သည့်ကုမ္ပဏီ

၄။ ဤကုမ္ပဏီသည် မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေပုဒ်မ-၂၊ ပုဒ်မခွဲ (၁)၊ ပုဒ်မခွဲငယ် ၁၃ (က) တွင် အဓိပ္ပါယ်ဖော်ပြထားသည့် အများနှင့်သက်ဆိုင်သည့် လီမိတက်ကုမ္ပဏီဖြစ်သည်။

## လုပ်ငန်းစတင်ဆောင်ရွက်ခြင်း

၅။ ကုမ္ပဏီ၏လုပ်ငန်းစတင်ဆောင်ရွက်ခြင်းနှင့်ပတ်သက်ပြီး၊ မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေပုဒ်မ-၁၀၃ တွင် ဖော်ပြထားသည့် ကန့်သတ်သတ်မှတ်ချက်များသည်ကုမ္ပဏီနှင့် သက်ဆိုင်နေသည့် ကာလပတ်လုံး သတ်မှတ်ထားသည့် အတိုင်းအတာ အချက်အလက်များကို ဒါရိုက်တာများက အလေးထားဂရုမူရမည်။

## အစုရှယ်ယာများ

၆။ ကုမ္ပဏီ၏သင်းဖွဲ့မှတ်တမ်းတွင် သတ်မှတ်ချက်များပါရှိခဲ့လျှင် ယင်းတို့ကိုလိုက်နာလျက် ကုမ္ပဏီက မူလကတည်းကပေးထားသော အစုရှယ်ယာပါ အထူးအခွင့်အရေးများကို ထိခိုက်မှုမရှိစေဘဲ ဝေစုခံစားခွင့်ကိစ္စ၊ မဲပေးခွင့်ကိစ္စ၊ တန်ဖိုးရင်းပြန်ရခွင့်ကိစ္စ သို့မဟုတ် အခြားသောကိစ္စများနှင့် စပ်လျဉ်း၍ကုမ္ပဏီသည် အခါအားလျော်စွာ အထူးစည်းကမ်း သတ်မှတ်ဆုံးဖြတ်ချက်၊ အဆိုပါ ဦးစားပေးအစုရှယ်ယာများ၊ ရွှေ့ဆိုင်းထားသောအခွင့်အရေးပါ အစုရှယ်ယာများ သို့မဟုတ်

အခြားအထူးအခွင့်အရေးများ သို့မဟုတ် အဆိုပါ ကန့်သတ်ချက်များသည် မည်သည့် အစုရှ
ကိုမဆို ထုတ်ပေးနိုင်သည်။ ထို့ပြင် ဤကုမ္ပဏီ၏ သဘောအတိုင်း ရွေးနှုတ်နိုင်သည့် အခွင့်
သတ်မှတ်ချက်ဖြင့် ဦးစားပေးအစု ရှယ်ယာများကို အထူးဆုံးဖြတ်ချက်အရ ထုတ်ပေးနိုင်သည်

၇။ အကယ်၍ မည်သည့်အချိန်၌မဆို အစုရှယ်ယာမတည်ငွေရင်းကို အစုရှယ်ယာအတန်း
အမျိုးမျိုးဖြစ်အောင်ခွဲစိတ်လျှင် မည်သည့်အမျိုးအစားကိုမဆို ပူးတွဲပါရှိသည့် အခွင့်အရေးမျ
(ယင်းထုတ်ပေးသော အစုရှယ်ယာအမျိုးအစားအတွက် စည်းကမ်းချက်များ၊ အခြာ
စီစဉ်ထားပြီး မဟုတ်လျှင်) မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေပုဒ်မ ၆၆-က ပါပြဋ္ဌာန်းချက်
လိုက်နာလျှက် အဆိုပါအစုရှယ်ယာအမျိုးအစား၏ လေးပုံသုံးပုံပိုင်ဆိုင်ထားသူတို့၏စာအ
သဘောတူညီချက်ဖြင့်သော်လည်းကောင်း၊ သို့မဟုတ် အစုရှယ်ယာအမျိုးအစား ပိုင်ရှ
၏ သီးခြားအထွေထွေ အစည်းအဝေး၌ အထူးသဘောတူ စည်းကမ်းသတ်မှတ်ဆုံးဖြတ်
တစ်ရပ်ဖြင့် ခွင့်ပြုချက်အရသော်လည်းကောင်း၊ ပြောင်းလဲနိုင်ခွင့်ရှိသည်။ အဆိုပါ သီ
အထွေထွေအစည်းအဝေးများအတွက် သတ်မှတ်ထားသော ဤစည်းမျဉ်းများကို သင့်လျော်
ပြောင်းလဲပြင်ဆင်၍ အသုံးပြုရမည်။ သို့သော် အစည်းအဝေးအထမြောက်စေရန်အတွက် ထုတ
ထားသည့် အစုရှယ်ယာအမျိုးအစား ပိုင်ဆိုင်သူ အနည်းဆုံးသုံးဦးက ကိုယ်တိုင်ဖြ
သုံးပုံတစ်ပုံက ကိုယ်စားလှယ်ဖြင့်ဖြစ်စေ တက်ရောက်ရမည်။

၈။ အကယ်၍ အစုရှယ်ယာသက်သေခံလက်မှတ်တစ်စောင်သည် ပုံသဏ္ဌာန်ပျက်လျှင်၊ ပျောက်ဆုံး
သို့မဟုတ် ပျက်စီးလျှင် ဒါရိုက်တာများက သင့်လျော်သည်ဟု ယူဆသည့်အတိုင်း အထေ
အထားနှင့် လျော်ကြေးခံဝန်ချုပ် စသည့်စည်းကမ်းတို့ကို လိုက်နာပြီး အခကြေးငွေ ပေးဆေ
စေလျက် အစုရှယ်ယာသက်သေခံလက်မှတ်ကို အသစ်လဲလှယ်ပေးနိုင်သည်။

၉။ မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေပုဒ်မ ၅၄-ကတွင် ခွင့်ပြုထားသည့်မှတစ်ပါး ယင်းသတ်
ချက်ထက်ပိုသော ကုမ္ပဏီ၏မည်သည့်ရံပုံငွေများ၏ အစိတ်အပိုင်းကိုမျှ ကုမ္ပဏီ၏ အစုရှယ်ယာ
ဝယ်ယူရန်သော်လည်းကောင်း၊ အာမခံထား၍ ငွေချေးခြင်းသော်လည်းကောင်း မပြုလုပ်ရ။

## အစုရှယ်ယာ ခွဲဝေရောင်းချခြင်း

၁၀။ အစုရှယ်ယာများအားလုံးကို ခွဲဝေရောင်းချသည့်အခါ၌ အပြည့်ပေးသွင်းပြီး ဖြစ်စေရမည်။

## အစုရှယ်ယာများလွှဲပြောင်းခြင်းနှင့် တစ်ဆင့်လွှဲပြောင်းခြင်း

၁၁။ အစုရှယ်ယာတစ်စုစု၏ လွှဲပြောင်းရေးဆိုင်ရာစာတမ်းကို လွှဲပြောင်းသူနှင့်လွှဲပြောင်းခြင်းခံရသူ နှစ်
စလုံးက လက်မှတ်ရေးထိုးအတည်ပြုရမည့်အပြင် လွှဲပြောင်းသူသည် အစုဝင်များ မှတ်ပုံတင်
အုပ်တွင် အစုရှယ်ယာနှင့် စပ်လျဉ်း၍လွှဲပြောင်းခြင်းခံရသူ၏ အမည်ကို ရေးသွင်းပြီးသည်အ
အစုရှယ်ယာ ပိုင်ဆိုင်သူအဖြစ် တည်ရှိသည်ဟု မှတ်ယူရမည်။

၁၂။ ကုမ္ပဏီ၏ အစုရှယ်ယာများ လွှဲပြောင်းရာတွင် ဒါရိုက်တာများ လက်ခံအတည်ပြုနိုင်သေ
သုံးစွဲနေကျ ရိုးရိုးမည်သည့်ပုံစံဖြင့်ဖြစ်စေ၊ ပြုလုပ်ရမည်။

၁၃။ ဒါရိုက်တာများသည် နှစ်စဉ်သာမန်အထွေထွေအစည်းအဝေး မကျင်းပမီ တစ်ဆယ့်လေးရက်ကာလ အတွင်းတွင် လွှဲပြောင်းခြင်းမှတ်ပုံတင်ရန်ကိုလည်း ဆိုင်းငံ့ထားနိုင်သည်။ ဒါရိုက်တာများသည် လွှဲပြောင်းခြင်းဆိုင်ရာ မည်သည့်စာချုပ်စာတမ်းတို့ကိုမဆို အောက်ပါအချက်များအတိုင်း လိုက်နာ ဆောင်ရွက်ရန် ပျက်ကွက်ခဲ့လျှင် အသိအမှတ်မပြုဘဲ နေနိုင်သည်။

(က) လွှဲပြောင်းခြင်းမှတ်ပုံတင်ရန် ကုမ္ပဏီမှသတ်မှတ်ထားသော အခကြေးငွေကို ပေးဆောင်ရန်။

(ခ) လွှဲပြောင်းပေးသူသည် အမှန်တကယ် လွှဲပြောင်းပေးနိုင်ခွင့်ရှိကြောင်းကို လွှဲပြောင်းခြင်း စာတမ်းနှင့်အတူပူးတွဲ၍ ယင်းနှင့်သက်ဆိုင်သည့်အစုရှယ်ယာများ၏ သက်သေခံလက်မှတ် အပြင် အကယ်၍ဒါရိုက်တာများသည် လွှဲပြောင်းခြင်းတစ်ခုကို မှတ်ပုံတင်ပေးရန် ငြင်းပယ်လျှင် ကုမ္ပဏီသို့ အစုရှယ်ယာလွှဲပြောင်းခြင်းကို တင်ပြသည့်နေ့မှတစ်လအတွင်း လွှဲပြောင်းပေးသူနှင့် လွှဲပြောင်းပေးခြင်းခံရသူတို့ထံ ငြင်းပယ်ကြောင်း နို့တစ်စာပေးပို့ရမည်။

၁၄။ အစုရှယ်ယာပိုင်ဆိုင်သူအဖြစ် မှတ်ပုံတင်ပြီးသူကိုသာ ကုမ္ပဏီက အစုရှယ်ယာအပေါ် ပိုင်ဆိုင်ခွင့် ရှိသူအဖြစ် အသိအမှတ်ပြုရမည်။

၁၅။ အစုရှင်တစ်ဦးသည် အစုရှယ်ယာပိုင်ဆိုင်သည့်အချိန်၌ဖြစ်စေ၊ နောက်ပိုင်းမည်သည့်အချိန်၌ဖြစ်စေ၊ ၎င်း ကွယ်လွန်သည့်အခါ ၎င်း၏အစုရှယ်ယာများကို လွှဲပြောင်းပေးရန် မည်သည့်ပုဂ္ဂိုလ်၊ ပုဂ္ဂိုလ်များ အားမဆို အမည်တင်သွင်းထားနိုင်သည်။ ဤသို့သောကိစ္စရပ်တွင် ကုမ္ပဏီသည် နောက်ဆုံးအမည် တင်သွင်းထားသူအားသာလျှင် ထိုအစုရှယ်ယာအား ပိုင်ဆိုင်ခွင့်ရှိသူပုဂ္ဂိုလ် သို့မဟုတ် ပုဂ္ဂိုလ်များ အဖြစ် အသိအမှတ်ပြုရမည်။ ထိုသို့အမည်တင်သွင်းခြင်း မရှိသောအခါတွင်မူ ကွယ်လွန်သည့် တစ်ဦး တည်းပိုင်ဆိုင်သည့် အစုရှယ်ယာပိုင်ရှင်၏ သေတမ်းစာအတည်ပြုသူနှင့် အမွေထိန်းသူ တို့ကိုသာ ယင်းအစုရှယ်ယာ၏ ပိုင်ဆိုင်သူအဖြစ် ကုမ္ပဏီကလက်ခံမည်ဖြစ်သည်။ အကယ်၍ ရှယ်ယာကိုအမည်နှစ်ခု သို့မဟုတ် နှစ်ခုထက်ပို၍ အစုရှယ်ယာကို မှတ်ပုံတင်ထားလျှင်၊ တစ်ဦး သေဆုံးသွားပါက ကျန်ရှိသူ သို့မဟုတ် ကျန်ရှိသူများ သို့မဟုတ် ကျန်ရှိသူ၏သေတမ်းစာ အတည်ပြုသူ သို့မဟုတ် အမွေထိန်းစာရရှိသူသာလျှင် ယင်းအစုရှယ်ယာ၏ ပိုင်ဆိုင်ခွင့်ရှိသူ ဖြစ်ကြောင်း ကုမ္ပဏီက အသိအမှတ်ပြုရမည်။

၁၆။ မည်သူမဆိုအစုရှယ်ယာတစ်စုကို ပိုင်ဆိုင်ခွင့်ရှိလာလျှင် ဒါရိုက်တာများက အခါအားလျော်စွာ တောင်းဆိုသော သက်သေအထောက်အထားများကို တင်ပြနိုင်မှသာလျှင် အဖွဲ့ဝင်အဖြစ် မှတ်ပုံတင်ခြင်းခံယူခွင့်ရှိစေရမည် သို့မဟုတ် ထိုသူက မိမိကိုယ်တိုင် မှတ်ပုံတင်ခြင်းခံယူမည့် အစား ယင်းရှယ်ယာများကို သေဆုံးသူ သို့မဟုတ် လူမွဲအဖြစ်ခံယူထိုက်သူက လွှဲပြောင်းပိုင်ဆိုင်ခွင့် ရှိစဉ်က လွှဲပြောင်းနိုင်သကဲ့သို့ လွှဲပြောင်းနိုင်ခွင့်ရှိသည်။ သို့သော် ဒါရိုက်တာများသည် မည်သည့် ကိစ္စတွင်မဆို သေသူ သို့မဟုတ် လူမွဲခံယူလွှဲပြောင်းခွင့်ရှိစဉ်က လျှောက်ထားသည့်အခါ မှတ်ပုံတင်ခြင်းကို ငြင်းပယ်ခြင်း သို့မဟုတ် ဆိုင်းငံ့ထားခြင်း ပြုလုပ်နိုင်သည်။

၁၇။ ပုဂ္ဂိုလ်တစ်ဦးသည် အစုရှယ်ယာတစ်စုကို အထက်ပါအတိုင်း ပိုင်ဆိုင်ခွင့်ရလာလျှင် ထိုသူသည် မူလမှတ်ပုံ တင်ထားသူကိုယ်တိုင်ရရှိခဲ့သော အမြတ်ဝေစုများနှင့် အခြားခံစားခွင့်များကို ရရှိခွင့်ရှိ စေရမည်။ သို့သော် ထိုသူသည် အစုဝင်အဖြစ် မှတ်ပုံတင်ခံရခြင်းမရှိမီ ကုမ္ပဏီအစည်းအဝေး များနှင့် စပ်လျဉ်း၍ အစုဝင်များသို့ အပ်နှင်းထားသည့် မည်သည့်အခွင့်အရေးကိုမျှ ရရှိခွင့် ရှိမည်မဟုတ်။

အစုရှယ်ယာများကိုစတော့ အဖြစ်ပြောင်းလဲခြင်း

၁၈။ ဤကုမ္ပဏီ၏ ကြိုတင်ပြုလုပ်သော အထွေထွေအစည်းအဝေးမှ ခွင့်ပြုချက်ဖြင့် ဒါရိုက်တာများသည် အပြည့်ပေးအပ်ပြီးသည့် အစုရှယ်ယာများကို စတော့အဖြစ် ပြောင်းလဲခွင့်ရှိသည်။ ထို့ပြင် ဒါရိုက်တာများသည် ထိုသို့သော ရရှိသည့်ခွင့်ပြုချက်ဖြင့် မည်သည့်စတော့ကိုမဆို အပြည့်ပေးအပ်ပြီးသည့် ရှယ်ယာအဖြစ်ပြန်လည်ပြောင်းလဲနိုင်သည်။

၁၉။ စတော့လက်ကိုင်ပိုင်ဆိုင်သူတို့သည် ၎င်းတို့၏စတော့ သို့မဟုတ် စတော့၏တစ်စိတ်တစ်ဒေသကို တတ်နိုင်သရွေ့ အခြေအနေပေးသမျှ ယင်းစတော့များကို ရှယ်ယာမှစတော့အဖြစ် မပေါ်ထွက်လာမီက ပြောင်းလွှဲရမည့်စည်းမျဉ်းများအရနှင့် အလားတူနည်းအတိုင်း ပြောင်းလွှဲနိုင်သည်။ သို့သော် ဒါရိုက်တာများသည်အခါ အားလျော်စွာထိုသို့ ပြောင်းလွှဲစတော့ ပမာဏအနည်းဆုံး မည်ရွေ့ဖြစ်ရ မည်ဟု သတ်မှတ်နိုင်သည်။ ထိုသို့သတ်မှတ်သည့်အနည်းဆုံး၏ တစ်စိတ်တစ်ဒေသ ပြောင်းလွှဲမှုကို လည်း သတ်မှတ်နိုင်သည် သို့မဟုတ် ပိတ်ပင်နိုင်သည်၊ သို့သော်ထိုအနည်းဆုံး သတ်မှတ်ချက်သည် စတော့ပေါ်ထွက်လာသည့် ရှယ်ယာများ၏ သာမန်ပမာဏတန်ဖိုးထက် မပိုစေရ။

၂၀။ စတော့ပိုင်ဆိုင်လက်ကိုင်ရှိသူများသည် ကုမ္ပဏီ၏အစည်းအဝေးနှင့် အခြားကိစ္စရပ်များတွင်၊ ၎င်းတို့၏စတော့ပေါ်ပေါက်လာသည့် အစုရှယ်ယာများ ကိုင်ဆောင်ထားဘိသကဲ့သို့ ယင်းအစုရှယ်ယာ ပမာဏ အတိုင်း အမြတ်ဝေစု အခွင့်အရေး၊ မဲပေးခြင်းအခွင့်အရေး၊ ပိုင်ရေးပိုင်ခွင့်အထူးခွင့်နှင့် အကျိုးခံစားခွင့် ညီတူရရှိစေရမည်။ သို့ရာတွင် (ကုမ္ပဏီ၏ အမြတ်ဝေစုနှင့်အကျိုးအမြတ်တွင် ပါဝင်ရရှိခြင်းမှအပ) ယင်းစတော့၏စားကိန်းအရ အကြွင်းမရှိသည့်အပိုင်းနှင့်ပတ်သက်၍ မူရင်း စတော့ပေါ် ထွက်လာသည့်အစုရှယ်ယာများအပေါ် ပိုင်ရေးပိုင်ခွင့် အထူးအခွင့် အကျိုးအမြတ် ရရှိထားမှသာလျှင် ယင်းစတော့များအပေါ် ပိုင်ရေးပိုင်ခွင့်အထူးအခွင့်နှင့် အကျိုးခံစားခွင့် ရရှိနိုင်သည်။

၂၁။ ပေးဆပ်ပြီးသည့် ရှယ်ယာ (အစု)များနှင့် (ရှယ်ယာဝရမ်းများနှင့် သက်ဆိုင်သည့်ကိစ္စရပ်များမှအပ) ကုမ္ပဏီ၏ စည်းမျဉ်းများသည် စတော့များနှင့်လည်း သက်ဆိုင်ရမည်။ "အစု"နှင့် အစုရှင်ဆိုသည့် စကားရပ်များတွင် စတော့နှင့် စတော့လက်ကိုင်ပိုင်ဆိုင်သူစကားရပ်များ ပါဝင်သည်။

အစုရှယ်ယာဝရမ်းများ

၂၂။ ဤကုမ္ပဏီသည် အစုရှယ်ယာဝရမ်းများ ထုတ်ပေးနိုင်သည်။ ဒါရိုက်တာလူကြီးများက အချိန်အားလျော်စွာ သတ်မှတ်ထားသည့် နည်းလမ်းအတိုင်း အပြည့်ပေးအပ်ပြီးသော အစုအတွက် အစုပိုင်ရှင်အဖြစ် မှတ်ပုံတင်ထားသူသည် စာဖြင့်ရေးသားထားသည့် လက်မှတ်ရေးထိုးထားသော လျှောက်လွှာဖြင့် အစုဝရမ်းများကို တောင်းခံလာပါက ဒါရိုက်တာများ၏ သဘောအတိုင်း ထုတ်ပေးနိုင်သည်။ ယင်းကဲ့သို့ ထုတ်ပေးရန် လျှောက်လွှာအပေါ် ထိုးထားသည့်လက်မှတ် မှန်ကန်ကြောင်း သက်သေအထောက်အထား (ရှိခဲ့သော်)ပါရှိရမည်။ အစုရှယ်ယာနှင့် ပတ်သက်၍ ယင်းအထောက်အထား လက်မှတ် (ရှိခဲ့သော်) ဝရမ်းအတွက် တံဆိပ်ခေါင်းဖိုးငွေနှင့် အခပါ ရရှိသည့်အခါ ဒါရိုက်တာများသည် ဝရမ်းကို တံဆိပ်ခေါင်းကပ်၍ ကုမ္ပဏီ၏ တံဆိပ်ဖြင့် ထုတ်ပေးနိုင်သည်။ယင်းဝရမ်းတွင် ဖော်ပြထားသည့် အစုများအပေါ်ပေးရန်ရှိသော အမြတ်ဝေစုနှင့် အခြားငွေများရရှိခွင့် ရှိသူများ ဖြစ်ကြောင်းနှင့် ယင်းဝရမ်းတွင် ဖော်ပြထားသည့်အစုများအပေါ်

ပေးရန်ရှိသော အမြတ်ဝေစုနှင့် အခြားငွေများ ရရှိခွင့်ရှိသူများ ဖြစ်ကြောင်းဖော်ပြ၍ ထိုကဲ့သို့ရရန်ဖြတ်ပိုင်း သို့မဟုတ် အခြားအထောက် အထားပေးအပ်ရမည်။

၂၃။ အစုရှယ်ယာဝရမ်းသည်ယင်းဝရမ်းတွင် ဖော်ပြထားသည့် အစုများကို ထိုအစုဝရမ်းလက်ကိုင်ရှိသူက ပိုင်ခွင့်ရှိသည်။ အစုဝရမ်းကိုလက်ရောက်ပေးအပ်ခြင်းဖြင့် လွှဲပြောင်းပေးခြင်းဖြစ်သည်။ အစုများနှင့် ပတ်သက်သည့် လွှဲပြောင်းခြင်းနှင့် ဆင်းသက်မှုတို့နှင့် ကုမ္ပဏီ၏စည်းမျဉ်းများသည် အစုဝရမ်းများနှင့် မသက်ဆိုင်စေရ။

၂၄။ ဒါရိုက်တာများက အချိန်အားလျော်စွာ သတ်မှတ်ထားသည့် ငွေကြေးပေးသွင်းပြီး၊ အစုရှယ်ယာဝရမ်းပိုင်ရှင်က ယင်းဝရမ်းကို ကုမ္ပဏီက ပယ်ဖျက်ပေးရန် ပြန်သွင်းသည့်အခါ ၎င်း၏အမည်ကို အစုဝင်များ မှတ်ပုံတင်စာအုပ်တွင် ဝရမ်းတွင် ဖော်ပြထားသည့် အစုရှယ်ယာများအတိုင်း ပိုင်ဆိုင်သည့် အစုဝင်အဖြစ် ထည့်သွင်းပေးရန် တောင်းဆိုခွင့်ရှိသည်။

၂၅။ အစုရှယ်ယာဝရမ်းပိုင်ဆိုင်သူသည် အချိန်မရွေးဝရမ်းကို ကုမ္ပဏီ၏ရုံး၌ အပ်နှံနိုင်သည်။ ထိုသို့ ဝရမ်းသည် အပ်နှံထားလျက်ရှိနေလျှင် အပ်နှံထားသူသည် ကုမ္ပဏီအစည်းအဝေးခေါ်ပေးရန် တောင်းဆိုချက် လက်မှတ်ရေးထိုးခွင့်တန်းတူရှိသည်။ အပ်နှံထားသည့် ဝရမ်းတွင်ပါရှိသည့် အစုရှယ်ယာ များနှင့် အညီထိုသူသည် ဝရမ်းအပ်နှံပြီးနှစ်ရက်တိတိ ကုန်ဆုံးသည့်အချိန်မှစ၍ မည်သည့် အစည်းအဝေးသို့ တက်ခွင့်၊ မဲပေးခွင့်နှင့်အခြားအဖွဲ့ဝင်များ ရရှိသည့်ပိုင်ခွင့် အထူးအခွင့်အရေးများ ကျင့်သုံးခွင့်ရှိသည်။ သူတစ်ဦးတစ်ယောက်ထက်ပို၍ အစုရှယ်ယာဝရမ်း အပ်နှံသူအဖြစ်အသိ အမှတ်မပြု။ နှစ်ရက်ကြိုတင် နို့တစ်စာပေးပို့လျှင် ကုမ္ပဏီသည် အပ်နှံထားသော အစုရှယ်ယာ ဝရမ်းကို အပ်နှံသူအား ပြန်ပေးရမည်။

၂၆။ နောက်တွင် အခြားနည်းအားဖြင့် အတိအကျဖော်ပြထားခြင်းမှတစ်ပါး အစုရှယ်ယာဝရမ်းပိုင်ရှင် မည်သူ မဆို ကုမ္ပဏီအစည်းအဝေးခေါ်ပေးရန် လက်မှတ်ထိုး၍ တောင်းဆိုချက်ပြုခွင့်မရှိ သို့မဟုတ် ကုမ္ပဏီအစည်း အဝေးတက်ခွင့် သို့မဟုတ် မဲပေးခွင့် သို့မဟုတ် အစုဝင်၏ အခြားပိုင်ရေးပိုင်ခွင့် အထူးအခွင့်မရှိ၊ သို့မဟုတ် ကုမ္ပဏီထံမှ အကြောင်းကြားစာများ ရရှိခွင့်မရှိ၊ သို့ရာတွင် ဝရမ်း၌ ဖော်ပြထားသည့် အစုရှယ်ယာပိုင်ဆိုင်သူအနေနှင့် မှတ်ပုံတင်စာအုပ်၌ ဖော်ပြထားသည့် အစုဝင် တစ်ဦး ရရှိသည့်ပိုင်ရေးပိုင်ခွင့် အထူးအခွင့်များနှင့် အကျိုးခံစားခွင့်များကို အစုရှယ်ယာဝရမ်း ပိုင်ဆိုင်သူက ရရှိစေရမည်။ သူသည် "ကုမ္ပဏီ"၏ အစုဝင်ဖြစ်သည်။

၂၇။ အစုရှယ်ယာဝရမ်းများ ပျက်ပြယ်လျှင်၊ ဆုံးရှုံးလျှင် သို့မဟုတ် ပျက်စီးသွားလျှင် ပြန်လည် လဲလှယ်သည့် အနေနှင့် အစုရှယ်ယာဝရမ်း အသစ်လက်မှတ်ဖြတ်ပိုင်း ထုတ်ပေးရန်အတွက် ဒါရိုက်တာ လူကြီးများ သည် အခါအားလျော်စွာ သတ်မှတ်ချက်များအတွက် နည်းဥပဒေများ ပြုလုပ်နိုင်သည်။ (၎င်းတို့ လိုအပ်သည် ထင်မှတ်လျှင်)၊

## မတည်ငွေရင်းနှင့် အစုရှယ်ယာများ

၂၈။ ကုမ္ပဏီ၏ သတ်မှတ်မတည်ငွေရင်းသည် ကျပ် ၂၅,၀၀၀,၀၀၀,၀၀၀/- (ကျပ် နှစ်ဆယ့်ငါးဘီလီယံ တိတိ) ဖြစ်၍ ငွေကျပ် ၁၀,၀၀၀/- (ကျပ်တစ်သောင်း တိတိ) တန် အစုရှယ်ယာပေါင်း (၂,၅၀၀,၀၀၀) ခွဲထားပါသည်။ ကုမ္ပဏီ၏ရင်းနှီးငွေကို ကုမ္ပဏီ၏ စည်းမျဉ်းများနှင့် လက်ရှိတရားဝင် တည်ဆဲဖြစ်နေသော တရားဥပဒေပြဋ္ဌာန်းချက်များနှင့်အညီ အထွေထွေသင်းလုံးကျွတ်အစည်း အဝေး၌ တိုးမြှင့်နိုင်ခွင့်၊ လျှော့ချနိုင်ခွင့်နှင့် ပြင်ဆင်နိုင်ခွင့် အာဏာရှိစေရမည်။

## မတည်ငွေရင်းကို ပြုပြင်ပြောင်းလဲခြင်း

၂၉။ ဒါရိုက်တာများသည် အထွေထွေအစည်းအဝေးကြီးတွင် ကုမ္ပဏီ၏အတည်ပြုခွင့်ပြုချက်အရ တင်ပြ
ရရှိသော အထူးဆုံးဖြတ်ချက်တစ်ရပ်ကို လိုက်နာ၍ မတည်ငွေရင်းကို တိုးမြှင့်ခြင်းနှင့်
သင့်လျော်သော အစုရှယ်ယာများအဖြစ် ခွဲစိတ်ခြင်းကို ဆုံးဖြတ်ခွင့်ပြုချက်တွင် သတ်မှတ်ပေးသည့်
ပမာဏအတိုင်း ပြုလုပ်နိုင်သည်။

၃၀။ မတည်ငွေရင်းတိုးမြှင့်ရန် ဆုံးဖြတ်ခွင့်ပြုချက်ပေးရာတွင် ဆန့်ကျင်သော ညွှန်ကြားချက်တစ်ခုခုပါရှိ
သည့် ကိစ္စရပ်များမှတစ်ပါး အစုရှယ်ယာသစ်များ ထုတ်ပေးရာတွင်၊ အထွေထွေအစည်းအဝေး
ဖိတ်စာ ရထိုက်သူများသို့ အဆိုပါသူတို့ ပိုင်ဆိုင်လျှက်ရှိသော အစုရှယ်ယာများအချိုးအစားနှင့်
အနီးဆုံးဖြစ် နိုင်သောအခြေအနေအတိုင်း အစုရှယ်ယာသစ်များ အရေအတွက်မည်မျှ
ဝယ်ယူခွင့်ရှိကြောင်း အသိပေးသော နို့တစ်စာများ ရရှိခွင့်ရှိသည်။ အဆိုပါနို့တစ်စာတွင်
ထုတ်ပေးရန်ကမ်းလှမ်းသော အစုရှယ်ယာအရေအတွက်နှင့် ထုတ်ပေးသည့်အချိန်ကာလ
သတ်မှတ်ရက်ပါရှိစေလျှက် ထိုရက် အတွင်း လက်ခံကြောင်းအတည်မပြုပါက လက်မခံလိုကြောင်း
မှတ်ယူမည်ဖြစ်ကြောင်း ဖော်ပြ ပါရှိရမည်။ ထိုသို့ သတ်မှတ်ရက်ကျော်လွန်သည်ဖြစ်စေ
အစုရှယ်ယာသစ်များမယူလိုကြောင်း အကြောင်းပြန်ကြား၍ဖြစ်စေ၊ ကျန်ရှိသောအစုရှယ်ယာများကို
ကုမ္ပဏီအတွက် အကျိုးအရှိဆုံးဖြစ်မည် ယူဆသော နည်းလမ်းများအတိုင်း ဒါရိုက်တာများက
စီမံခန့်ခွဲနိုင်ခွင့်ရှိသည်။ ဒါရိုက်တာများသည် (ကိုင်ဆောင်ထားသော အစုရှယ်ယာများအချိုးကျ
အတိုင်း ကမ်းလှမ်းရန်ရှိသော အစုရှယ်ယာသစ်များဝယ်ယူခွင့် ရရှိမည့်ပုဂ္ဂိုလ်များသို့
အချိုးကျခွဲဝေရာတွင်) ဤသင်းဖွဲ့စည်းမျဉ်းအရ ကမ်းလှမ်းခြင်းကို အဆင်ပြေစွာ ဆောင်ရွက်
နိုင်မည်မဟုတ်ကြောင်း ထင်မြင်လျှင် မည်သည့် အစုရှယ်ယာသစ်ကိုမဆို အထက်ပါအတိုင်း စီမံ
ခန့်ခွဲနိုင်ခွင့်ရှိသည်။

၃၁။ အစုရှယ်ယာသစ်များသည်လည်း မူလမတည်ငွေရင်းပါ အစုရှယ်ယာများနည်းတူ တောင်းခံခြင်
များကို ပေးချေရန် တရားဝင်ထိန်းသိမ်းထားပိုင်ခွင့်၊ လွှဲပြောင်းခြင်း၊ တစ်ဆင့်လွှဲပြောင်းခြင်း
သိမ်းယူခြင်းနှင့် အခြားနည်းဆောင်ရွက်ခြင်း စသည့်သတ်မှတ်ချက်များနှင့် အကျုံးဝင်စေရမည်။

၃၂။ ကုမ္ပဏီသည် သာမန်ဆုံးဖြတ်ချက်များအရ -

(က) လက်ရှိအစုရှယ်ယာမတည်ငွေရင်းကို ပေါင်းစည်းခြင်းဖြင့် မူလအစုရှယ်ယာထက်
တန်ဖိုးကြီးသော အစုရှယ်ယာများဖြစ်အောင် ဖန်တီးနိုင်သည်။

(ခ) လက်ရှိအစုရှယ်ယာများဖြစ်စေ၊ အခြားမည်သည့်အစုရှယ်ယာများကို မဆိုဖြစ်စေ၊ ထပ်မံ
ခွဲစိတ်ခြင်းဖြင့် အစုရှယ်ယာ မတည်ငွေရင်း တစ်ခုလုံးဖြစ်စေ၊ တစ်စိတ်တစ်ဒေသကိုဖြစ်စေ
သင်းဖွဲ့မှတ်တမ်းပါ အစုရှယ်ယာတန်ဖိုးအောက်ငယ်သော အစုရှယ်ယာများဖြစ်အောင်
ခွဲစိတ်နိုင်သည်။ သို့သော် မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေ ပုဒ်မ ၅၀ ပုဒ်မခွဲ (၁
ပုဒ်မခွဲငယ် (ဃ) ပါ ပြဋ္ဌာန်းချက်ကို ကျော်လွန်၍ လုပ်နိုင်ခွင့်မရှိစေရ။

(ဂ) ဆုံးဖြတ်ချက် ချမှတ်သည့်နေ့တွင် ရယူခြင်း မပြုရသေးသော သို့မဟုတ် ရယူရန်သဘော
တူခြင်း မရှိသေးသော မည်သည့်အစုရှယ်ယာများကိုမဆို ပယ်ဖျက်နိုင်သည်။

၃၃။ ကုမ္ပဏီသည် အစုရှယ်ယာမတည်ငွေရင်းနှင့်မည်သည့် မတည်ငွေရင်းအာမခံ အထူးရန်ပုံငွေကိုမဆ
လျှော့ချခြင်းကို အထူးဆုံးဖြတ်ချက်များဖြင့် ဥပဒေက လက်ခံခွင့်ပြုထားသည့် ဘောင်အတွင်း
မည်သည့်နည်းဖြင့်မဆို ပြုလုပ်နိုင်သည်။

အထွေထွေအစည်းအဝေးများ

၃၄။ မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေပုဒ်မ ၇၇ ၏ လိုအပ်ချက်အရ ကုန်သွယ်မှုစတင်ဆောင်ရွက်ခွင့်ရှိသည့်ရက်မှ တစ်လထက်မနည်း သို့မဟုတ် ခြောက်လထက်မကျော်သည့် အချိန်အတွင်း ကုမ္ပဏီသည် ဥပဒေပြဌာန်းချက် အထွေထွေအစည်းအဝေးကျင်းပရမည်။ ဥပဒေပြဌာန်းချက် အစီရင်ခံစာကိုပြုစုပြီး ဒါရိုက်တာများ (သို့မဟုတ်) သဘာပတိက မှန်ကန်ကြောင်း သက်သေခံလက်မှတ်ရေးထိုးစေရမည်။

၃၅။ ကုမ္ပဏီ၏ အထွေထွေအစည်းအဝေးကို ကုမ္ပဏီအား ဥပဒေအရ ဖွဲ့စည်းတည်ထောင်ထားသည့်နေ့ရက်မှစ၍ တစ်ဆယ့်ရှစ်လအတွင်းတွင် ကျင်းပပေးစေရမည်။ ထိုသို့ ကျင်းပပြီးနောက် ပြက္ခဒိန်နှစ် တစ်နှစ်လျှင် အနည်းဆုံး တစ်ကြိမ် (နောက်ဆုံးကျင်းပပြီးစီးသွားသော အထွေထွေအစည်းအဝေးပြီးဆုံး၍ တစ်ဆယ့်ငါးလထက်မပိုသည့်အချိန်၌) ကုမ္ပဏီ၏ အထွေထွေအစည်းအဝေးကြီးတွင် သဘောတူဆုံးဖြတ်ထားသည့် အဆိုပါနေ့၊ အချိန်နှင့်နေရာတွင် အထွေထွေအစည်းအဝေးကြီး ခေါ်ယူရမည် သို့မဟုတ် ယင်းနည်းအတိုင်းခေါ်ယူသည့် အထွေထွေအစည်းအဝေးကျင်းပရန် ပျက်ကွက်ခဲ့သည်ရှိသော် နောက်လာမည့် တစ်လအတွင်း မည်သည့်အသင်းသားနှစ်ဦးမှနေ၍မဆို အထွေထွေအစည်းအဝေးကို ဒါရိုက်တာများကခေါ်လေ့ရှိသည့်နည်းလမ်းများ အတိုင်း အနီးစပ်ဆုံး ဖြစ်စေလျက် ပုံစံတကျခေါ်ယူခွင့်ရှိစေရမည်။

၃၆။ အထက်ဖော်ပြပါ အထွေထွေအစည်းအဝေးများကို သာမန်အစည်းအဝေးများဟုခေါ်ဆို၍ ကျန်အစည်းအဝေးများကို အထူးအစည်းအဝေးများဟု ခေါ်ဆိုရမည်။

၃၇။ ဒါရိုက်တာများသည် သင့်လျော်သည်ဟု ယူဆသည့် မည်သည့်အချိန်၌မဆို၊ အထူးအထွေထွေအစည်းအဝေးကို ခေါ်ယူနိုင်သည်။ ထို့ပြင် တောင်းဆိုခြင်းပြုလာ၍သော်လည်းကောင်း၊ သို့မဟုတ် အစည်းအဝေးကျင်းပရန် ပျက်ကွက်ပါကလည်းကောင်း၊ အထူးအထွေထွေ အစည်းအဝေးကိုခေါ်စေနိုင်သည်။ အကယ်၍ မည်သည့်အချိန်တွင်မဆို မြန်မာနိုင်ငံအတွင်း အစည်းအဝေးအထမြောက်နိုင်လောက်သော ဒါရိုက်တာများ အရေအတွက် မရှိပါကမည်သည့် ဒါရိုက်တာမဆိုလည်းကောင်း၊ ကုမ္ပဏီ၏ မည်သည့်အစုဝင်နှစ်ဦးမဆို ကသော်လည်းကောင်း၊ ဒါရိုက်တာများက အစည်းအဝေးကိုခေါ်ယူစေသည့် နည်းလမ်းများအတိုင်း အနီးစပ်ဆုံးဖြစ်စေလျက် အထူးအထွေထွေအစည်းအဝေးကိုခေါ်ယူနိုင်သည်။

အထွေထွေ အစည်းအဝေးကြီးများတွင် ဆောင်ရွက်ချက်များ

၃၈။ မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေပုဒ်မ - ၈၁ ပုဒ်မခွဲ (၂) ပါ အထူးဆုံးဖြတ်ချက်များနှင့် စပ်လျဉ်းသော ပြဌာန်းချက်များကို လိုက်နာလျက် အနည်းဆုံးတစ်ဆယ့်လေးရက် ကြိုတင်၍ နို့တစ်စာကို (နို့တစ်စာ ထုတ်သည့်နေ့ သို့မဟုတ် နို့တစ်စာထုတ်ပြီးဖြစ်သည်ဟု သဘောဆောင်သောနေ့ကို ဖယ်ထုတ်လျက်။ သို့သော် နို့တစ်စာပေးအပ်ပြီးသည့်နေ့ကိုမူ ထည့်သွင်းရေတွက်ရမည်) အစည်းအဝေးကျင်းပမည့်အချိန်၊ နာရီ၊ နေ့ရက်နှင့် နေရာတို့ကို ဖော်ပြလျက်အဖွဲ့ဝင်များအားဖိတ်ကြားရမည်။ အထူးလုပ်ငန်းရပ်ကိစ္စရပ်အတွက်ဖြစ်စေ၊ ယင်းလုပ်ငန်း၏ ယေဘူယျသဘောအနေအထားအရ ဆက်လက်ဖော်ပြမည့် နည်းလမ်းအတိုင်း နို့တစ်စာချအပ်ရမည်။ သို့မဟုတ် အခြားနည်းလမ်းရှိခဲ့လျှင် ကုမ္ပဏီ၏ အထွေထွေအစည်းအဝေးက သတ်မှတ်နိုင်သည်။ နို့တစ်စာချအပ်ဖိတ်ကြားရာတွင် မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေ သို့မဟုတ် ကုမ္ပဏီ၏စည်းမျဉ်းများအရ နို့တစ်စာ လက်ခံခွင့်ရှိသူများထံ ပေးအပ်ဖိတ်ကြားရမည်။ သို့သော် နို့တစ်စာပေးအပ်ရန်

မတော်တဆ ချန်လှပ်မိခြင်း သို့မဟုတ် မည်သည့်အစုဝင်မဆို နို့တစ်စာ လက်ခံရရှိမှုမရှိခြင်း အကြောင်းကြောင့် မည်သည့်အထွေထွေ အစည်းအဝေးတွင်မဆို ဆောင်ရွက်ခဲ့သည့် ဆောင်ရွက်ချက်များကို ပျက်ပြယ်စေခြင်း မဖြစ်စေရ။

၃၉။ မည်သည့်သာမန်အစည်းအဝေးများတွင်မဆို ဆောင်ရွက်သော အမြတ်ဝေစုတစ်ရပ် ခွဲဝေခွင့်ပြုခြင်းကိစ္စ၊ ငွေစာရင်းကိစ္စ၊ ဒါရိုက်တာများနှင့် စာရင်းများ၏ သာမန်မှတ်တမ်းတင်ပြချက်များနှင့် ငွေစာရင်း ရှင်းတမ်းများကိစ္စ၊ အလှည့်ကျအနားယူသွားသော ဒါရိုက်တာများနှင့် အခြားအရာရှိများ နေရာတွင် အစားထိုးရွေးချယ်ခြင်းကိစ္စ၊ စာရင်းစစ်များ ချီးမြှင့်ရမည့်ထောက်ပံ့ငွေများ သတ်မှတ်ခြင်းကိစ္စများမှတစ်ပါး မည်သည့် သာမန်အစည်းအဝေးတစ်ရပ်တွင်ဖြစ်စေ၊ ဆွေးနွေး ဆောင်ရွက်သည့်လုပ်ငန်းအားလုံးကို အထူးကိစ္စဟုမှတ်ယူရမည်။

၄၀။ အစည်းအဝေးထမြောက်စေရန် လိုအပ်သောအဖွဲ့ဝင်ဦးရေ ပြည့်စုံစွာတက်ရောက်ခြင်းမပြုဘဲ အစည်းအဝေးစတင်ရန် အချိန်ကျရောက်စေကာမူ မည်သည့်အထွေထွေအစည်းအဝေးတွင်မျှ လုပ်ငန်းကိစ္စကို ဆောင်ရွက်ခြင်းမပြုရ။ ဤတွင် အခြားနည်းသတ်မှတ်ချက်များ စီစဉ်ထားရှိသည်များမှတစ်ပါး အဖွဲ့ဝင်ငါးဦး ကိုယ်တိုင်တက်ရောက်မှ အစည်းအဝေးထမြောက်စေသော ဦးရေပြည့်စုံသည်ဟု သတ်မှတ်သည်။

၄၁။ အစည်းအဝေးအတွက်ချိန်းဆိုထားသော အချိန်ကျရောက်ပြီး နာရီဝက်အတွင်း အစည်းအဝေး အထမြောက်စေမည့် အစုဝင်ဦးရေ တက်ရောက်ခြင်းမရှိလျှင်၊ အဆိုပါ အစည်းအဝေးသည် အစုဝင်များတောင်းဆိုချက် အရခေါ်ယူထားခြင်းဖြစ်ပါက ဖျက်သိမ်းရမည်။ အခြားကိစ္စတစ်ရပ်ကြောင့်ဖြစ်လျှင် အစည်းအဝေးကို တူညီသောနေ့၊ တူညီသောအချိန်၊ တူညီသောနေရာ၌ နောက်ရက်သတ္တပတ်သို့ ရွှေ့ဆိုင်းထားရမည်။ အကယ်၍ရွှေ့ဆိုင်းထားသော နေ့ရက်တွင် ကျင်းပမည့် အစည်းအဝေး၌ အစည်းအဝေးအထမြောက်စေရန် တက်ရောက်ရမည့် အစုဝင်ဦးရေသည် ချိန်းဆို ထားသော အချိန်ကျရောက်ပြီးနာရီဝက်အတွင်း တက်ရောက်လာခြင်း မရှိလျှင် တက်ရောက်လာ သမျှသော အစုဝင်များသည် အစည်းအဝေးအထမြောက်စေသော အစုဝင်ဦးရေ ဖြစ်စေရမည်။

၄၂။ ဒါရိုက်တာအဖွဲ့၏ ဥက္ကဋ္ဌရှိလျှင် ကုမ္ပဏီ၏ အထွေထွေအစည်းအဝေးတိုင်း၌ သဘာပတိအဖြစ် ဆောင်ရွက်ရမည်။

၄၃။ မည်သည့်အစည်းအဝေး၌မဆို ကျင်းပရန် သတ်မှတ်ထားသော အချိန်စေ့ရောက်ပြီးနောက် တစ်ဆယ့် ငါးမိနစ်အတွင်း သဘာပတိတက်ရောက်လာခြင်း မရှိပါက သို့မဟုတ် သဘာပတိအဖြစ် ဆောင်ရွက် ရန် ဆန္ဒမရှိပါက တက်ရောက်လာသော အစုဝင်များသည် မိမိတို့အထဲမှတစ်ဦးကို သဘာပတိအဖြစ် ရွေးချယ်တင်မြှောက်ရမည်။

၄၄။ အစည်းအဝေးအထမြောက်စေသည့် အဖွဲ့ဝင်ဦးရေတက်ရောက်၍ အထမြောက်သော မည်သည့် အစည်းအဝေး၏သဘောတူညီချက်အရ သဘာပတိသည် (ထို့ပြင်အစည်းအဝေး၏ ညွှန်ကြားချက် အရဖြစ်စေ) အစည်းအဝေးကို တစ်နေရာသို့ဖြစ်စေ၊ အချိန်တစ်ချိန်မှတစ်ချိန်သို့ဖြစ်စေ ရွှေ့ဆိုင်း နိုင်သည်။ သို့သော်ရွှေ့ဆိုင်းအစည်းအဝေး၌ ဆောင်ရွက်ရန်ကျန်ရှိခဲ့သည့် မပြီးပြတ်သေးသော လုပ်ငန်းကိစ္စမှတစ်ပါး အခြားမည်သည့်လုပ်ငန်းကိစ္စကိုမျှ ဆောင်ရွက်ခြင်းမပြုရ။ အစည်းအဝေး အတွက် နို့တစ်စာကို မူလအစည်းအဝေး တစ်ရပ်အတွက်ကဲ့သို့ပင် ပေးပို့ရမည်။ အထက်ဖော်ပြပါ အတိုင်းမှတစ်ပါး၊ အစည်းအဝေးရွှေ့ဆိုင်းခြင်းတစ်ရပ်အတွက်ဖြစ်စေ၊ ရွှေ့ဆိုင်းအစည်းအဝေး

တစ်ရပ်တွင် ဆောင်ရွက်ရန်လုပ်ငန်းကိစ္စရပ်အတွက်ဖြစ်စေ၊ မည်သည့်နို့ တစ်စာကိုမျှ ချအပ်ပေးရန် လိုအပ်ခြင်း မရှိစေရ။

၄၅။ မည်သည့်အထွေထွေအစည်းအဝေးတွင်မဆို ဆုံးဖြတ်ချက်တစ်ရပ်အတွက် မဲပေးခြင်းကိုလက်များ ပြခြင်းဖြင့် ဆုံးဖြတ်နိုင်သည်။ (လက်များပြ၍ရရှိသောအဖြေကို ကြေညာနေစဉ်ဖြစ်စေ၊ ကြေငြာခြင်း မပြုမီတွင် ဖြစ်စေ) သဘာပတိကဖြစ်စေ၊ အနည်းဆုံးအဖွဲ့ဝင်နှစ်ဦးကဖြစ်စေ၊ မဲပေးသူစာရင်းကို တောင်းဆိုခြင်း မပြုလျှင်၊ ထို့အပြင်မဲပေးသူစာရင်းကို တောင်းဆိုခဲ့ပြီး မဟုတ်လျှင် လက်များပြ၍ မဲပေးခြင်းဖြင့် ဆုံးဖြတ်သော ဆုံးဖြတ်ချက်တစ်ရပ်တွင် အတည်ပြုကြောင်း သို့မဟုတ် အများ သဘောတူ အတည်ပြုကြောင်း သို့မဟုတ် အများစု၏ သဘောဆန္ဒအရ အတည်ဖြစ်ကြောင်း သို့မဟုတ် ရှုံးနိမ့်သွားကြောင်းတို့သည် သဘာပတိ၏ကြေညာချက်တစ်ရပ်တွင် ပါဝင်ပြီး ဖြစ်သည်။ ထို့ပြင်အဆိုပါ အကျိုးသက်ရောက်မှုကို ကုမ္ပဏီ၏ ဆောင်ရွက်မှုမှတ်တမ်း စာအုပ်တွင် ရေးသွင်း ချက်တစ်ရပ်ပြုလုပ်ခြင်းသည် ထောက်ခံမဲ သို့မဟုတ် ကန့်ကွက်မဲ အရေအတွက်ကိုသော်လည်း ကောင်း၊ အချိုးအဆကိုသော်လည်းကောင်း၊ သက်သေထင်ရှား ပြရန်မလိုပဲ၊ ယင်းဆုံးဖြတ်ချက် အတွက် လုံလောက်သည့်အပြီးသတ် သက်သေခံချက် ဖြစ်စေရမည်။

၄၆။ အကယ်၍ မဲဆန္ဒပေးသူစာရင်းကို နည်းလမ်းတကျတောင်းဆိုလာပါက သဘာပတိ၏ညွှန်ကြားချက် အတိုင်း စာရင်းကောက်ယူရမည်။ ထို့အပြင် ကောက်ယူရရှိသော မဲဆန္ဒစာရင်းအဖြေသည် မဲပေးသူ စာရင်းကောက်ယူရန် တောင်းဆိုသည့် အစည်းအဝေး၏ ဆုံးဖြတ်ချက်ဟု မှတ်ယူရမည်။

၄၇။ လက်များပြခြင်းဖြစ်စေ၊ မဲဆန္ဒစာရင်းကောက်ယူခြင်းဖြစ်စေ၊ ဆောင်ရွက်ရာတွင် ဆန္ဒမဲများတူညီနေ သည့် ကိစ္စရပ်တွင် သဘာပတိသည် အစည်းအဝေးတွင် လက်ပြခြင်းဖြစ်စေ၊ မဲဆန္ဒပေးသူ စာရင်းတွင် ပါဝင်၍ဖြစ်စေ ဒုတိယ သို့မဟုတ် ဆုံးဖြတ်မဲတစ်မဲပေးပိုင်ခွင့်ရှိရမည်။

၄၈။ အစည်းအဝေးသဘာပတိ တစ်ဦးရွေးချယ်တင်မြှောက်ရာတွင်ဖြစ်စေ၊ အစည်းအဝေး ရွှေ့ဆိုင်းရန် ကိစ္စပေါ်ပေါက်လာလျှင်ဖြစ်စေ။ ယင်းအတွက်ဆန္ဒမဲပေးသူစာရင်း ကောက်ယူခြင်းကို ချက်ချင်း ဆောင်ရွက်ရမည်။ အခြားမည်သည့်ကိစ္စအတွက်မဆို တောင်းဆိုသော ဆန္ဒမဲပေးသူစာရင်း ကောက်ယူခြင်းကို အစည်းအဝေးသဘာပတိ၏ ညွှန်ကြားသည့်အချိန်တွင် ဆောင်ရွက်ရမည်။

### အစုဝင်များ၏မဲများ

၄၉။ လက်များပြ၍မဲပေးခြင်းတွင် ကိုယ်တိုင်သို့မဟုတ် ကိုယ်စားခန့်၍ တက်ရောက်နေသော အစုဝင် တိုင်းသည် မဲတစ်မဲပေးခွင့်ရှိသည်။ မဲပေးသူစာရင်းကောက်ယူခြင်းတွင် အစုရှင်တိုင်းသည် မိမိပိုင်ဆိုင်သော အစုရှယ်ယာတစ်စုစီအတွက် မဲတစ်မဲစီ ပေးပိုင်ခွင့်ရှိသည်။

၅၀။ ပူးတွဲပိုင်ဆိုင်သူများကိစ္စ၌ ဝါအရင့်ဆုံး ပုဂ္ဂိုလ်ကိုယ်တိုင်ဖြစ်စေ၊ ကိုယ်စားလှယ်ဖြင့်ဖြစ်စေ ပေးသော မဲတစ်မဲကို ကျန်ရှိသော ပူးတွဲပိုင်ဆိုင်သူများ၏ မဲများအား ထုတ်ပယ်လျှင်လက်ခံရမည်။ အဆိုပါ ဝါရင့်မှုကိစ္စအလို့ငှာ အဖွဲ့ဝင်များ၏ မှတ်တမ်းစာအုပ်ပါအမည်နာမ ရပ်တည်မှုအစီအစဉ်အတိုင်း ဆုံးဖြတ်ရမည်။

၅၁။ စိတ်မမှန်သူအစုဝင်တစ်ဦး သို့မဟုတ် စီရင်ပိုင်ခွင့်အာဏာရှိသော မည်သည့်တရားရုံးကမဆို ရူးသွပ် ကြောင်း အမိန့်တစ်ရပ်ချမှတ်ခံရပြီးသူ အစုဝင်အတွက် အဆိုပါပုဂ္ဂိုလ်၏ ကော်မတီကဖြစ်စေ၊ အခြား တရားဝင် အုပ်ထိန်းသူကဖြစ်စေ လက်များပြ၍ မဲပေးခြင်းစနစ်အရသော်လည်းကောင်း၊ မဲပေးသူ စာရင်းကောက်ယူ ခြင်းအရသော်လည်းကောင်း၊ မဲပေးပိုင်ခွင့်ရှိသည်။ ထို့ပြင် မဲစာရင်း

ကောက်ယူခြင်းနည်းဖြင့် မဲပေးရာတွင် အဆိုပါ မည်သည့်ကော်မတီ သို့မဟုတ် တရားဝင် အုပ်ထိန်းသူ မဆို ကိုယ်စားလွှဲအပ်ခြင်းဖြင့် မဲပေးနိုင်သည်။

မဲပေးသူစာရင်းကောက်ယူခြင်းတွင် ကိုယ်တိုင်ဖြစ်စေ ကိုယ်စားလှယ်ဖြင့်ဖြစ်စေ မဲပေးနိုင်ခွင့်ရှိသည်။

၅၂။ မဲပေးသူစာရင်းကောက်ယူခြင်းတွင် ကိုယ်တိုင်ဖြစ်စေ ကိုယ်စားလှယ်ဖြင့်ဖြစ်စေ မဲပေးနိုင်ခွင့်ရှိသည်။ သို့သော် မြန်မာနိုင်ငံ ကုမ္ပဏီများအက်ဥပဒေပုဒ်မ ၈၀ ပါပြဋ္ဌာန်းချက်များနှင့်အညီ အာဏာတည် လျက်ရှိသော ကုမ္ပဏီ၏ ဒါရိုက်တာများ၏ ဆုံးဖြတ်ချက်တစ်ရပ်ရှိနေသမျှ ကာလပတ်လုံး ကိုယ်စား လှယ်ဖြင့် မဲပေးခြင်းကို မည်သည့် ကုမ္ပဏီကမျှ ပြုလုပ်ခွင့် မရှိစေရ။

၅၃။ ကိုယ်စားလှယ်လွှဲအပ်ခြင်းခံရသူတစ်ဦးကို စာချုပ်စာတမ်းဖြင့် ခန့်ထားရာတွင် လွှဲအပ်သူကိုယ်တိုင် လက်ရေး ဖြင့်ဖြစ်စေ၊ လွှဲအပ်သူက အခွင့်အာဏာပေးထားသည့် ကိုယ်စားဆောင်ရွက်သူက ကိုယ်တိုင်လက်ရေးဖြင့် နည်းလမ်းတကျ ရေးသား၍ဖြစ်စေ၊ စာဖြင့်ခန့်ထားရမည်။ အကယ်၍ လွှဲအပ်သူသည် ကော်ပိုရေးရှင်းတစ်ခုခုဖြစ်လျှင် ယင်း၏အသုံးပြုမြဲ ရုံးတံဆိပ်ခတ်နှိပ်လျက်သော် လည်းကောင်း အခွင့်အာဏာပေးထားသည့် အရာရှိတစ်ဦး သို့မဟုတ် ကိုယ်စားဆောင်ရွက်ခွင့်ရှိသူ ကသော်လည်းကောင်း လက်ရေးဖြင့်ရေးသားလျက် လွှဲအပ်ခန့်ထားရမည်။ ကိုယ်စားလှယ်အဖြစ် မဲပေးရန် လွှဲအပ်ခြင်းခံရသူသည် ကုမ္ပဏီ၏အစုဝင်ဖြစ်ရန် မလိုပါ။ သို့သော် ၎င်းသည် အရွယ် ရောက်ပြီး ပင်္ကိုညာဉ်ပြနိုင်သူတစ်ဦးဖြစ်ရပါမည်။

၅၄။ ကိုယ်စားလွှဲပြောင်းခံရသူနှင့် အခွင့်အာဏာပေးအပ်ခြင်းခံရသူ သို့မဟုတ် အခြား လုပ်ပိုင်ခွင့် ပေးအပ် ခြင်းခံရသူ(ရှိလျှင်)တစ်ဦးကိုခန့်ထားသည့် စာချုပ်စာတမ်းအောက်တွင် ခန့်ထားသူက လက်မှတ်ရေးထိုးထားခြင်းဖြင့် သော်လည်းကောင်း၊ အဆိုပါအာဏာ သို့မဟုတ် လုပ်ပိုင်ခွင့် ပေးအပ်ထားခြင်းအတွက် နိုတြီဖြင့်မှန်ကန်ကြောင်း သက်သေခံလက်မှတ်ရေးထိုးထားသည့် စာချုပ်စာတမ်းမိတ္တူ တစ်စောင်ဖြင့်သော်လည်းကောင်း၊ ပြုလုပ်လျက် အဆိုပါစာချုပ်စာတမ်းတွင် အမည်ဖော်ပြထားသူက မဲပေးရန် ကြံရွယ်သော် အစည်းအဝေးကျင်းပမည့် အချိန်မတိုင်မီ ခုနှစ်ဆယ့်နှစ်နာရီအောက် မနည်းစေဘဲ ကုမ္ပဏီ၏မှတ်ပုံတင်ပြီးရုံးတွင် တင်သွင်းပြီးဖြစ်စေရမည်။ ထို့အပြင် ကိုယ်စားလှယ်လွှဲ အပ်ခြင်းခံရသူအား ခန့်ထားသည့် စာချုပ်စာတမ်းပြုလုပ်တင်သွင်းရန် ပျက်ကွက်လျှင် ယင်းကို တရားဝင်သည်ဟု သတ်မှတ်ခြင်း မခံထိုက်စေရ။

၅၅။ ကိုယ်စားလွှဲအပ်ခြင်းခံရသူ တစ်ဦးဆိုင်ရာ စာချုပ်စာတမ်းတစ်စောင်သည် အောက်ဖော်ပြပ ပုံစံအတိုင်း သော်လည်းကောင်း၊ ဒါရိုက်တာများလက်ခံနိုင်သော အခြားမည်သည့်ပုံစံနှင့် မဆိုသေ လည်းကောင်း ဖြစ်စေမည်-

" မြန်မာအက်ဂရိ အိတ်(စ်)ချိန်း ပတ်ဘလစ် လီမိတက်"

အထက်ဖော်ပြပါကုမ္ပဏီ၏အဖွဲ့ဝင်တစ်ဦးဖြစ်သည့်၊ .......... ..............................ဒေ

ကျွန်ုပ် .......................................... သည် ..................

နေ့ ............................ ကျင်းပမည်ဖြစ်သော ကုမ္ပဏီ၏ (သာမန်သို့မဟုတ် အဝ

ဆိုင်သင့်ရာရာ) အထွေထွေ အစည်းအဝေးတွင်လည်းကောင်း၊ ရွှေ့ဆိုင်းထားသ

အစည်းအဝေးတွင်လည်းကောင်း၊ မဲဆန္ဒပေး ခွင့်ရှိသူ ကိုယ်စားလွှဲအပ်ခြင်းခံရသူအဖြ

ကျွန်ုပ်၏ကိုယ်စား ............................ နေ့ ..................

အားခန့်ထားလိုက်သည်။ ......... ခုနှစ်၊ ...................... လ၊ ......................ရက်နေ့

လက်မှတ်ရေးထိုးပါသည်။

## အဖွဲ့အစည်းများစသည်တို့ ကိုယ်စားလှယ်များဖြင့် ဆောင်ရွက်ခွင့်

၅၆။ ကုမ္ပဏီ၏ အစုဝင်ဖြစ်သော မည်သည့်အဖွဲ့အစည်းမဆို ၎င်း၏ဒါရိုက်တာ သို့မဟုတ် အုပ်ချုပ်ရေးအဖွဲ့၏ ဆုံးဖြတ်ချက်အရ ၎င်းတို့သင့်တော်သည့်သူ သို့မဟုတ် သူများကို၎င်း၏ကိုယ်စားဒါရိုက်တာ သို့မဟုတ် ဒါရိုက်တာများအဖြစ်လည်းကောင်း၊ ကုမ္ပဏီ၏မည်သည့်အစည်းဝေးကိုမဆို ကိုယ်စားပြုသူ ဒါရိုက်တာအဖြစ် ဆောင်ရွက်ရန် အပ်နှင်းနိုင်သည်။ ကုမ္ပဏီ၏ မည်သည့်အစည်းအဝေးသို့မဆို စေလွှတ်နိုင်သည်။ ထိုသို့ ကိုယ်စားပြုရန် ခွင့်ပြုထားသည့်သူ သို့မဟုတ် သူများသည် ထိုအဖွဲ့အစည်းက ပုဂ္ဂလိကအစုဝင်တစ်ဦးဖြစ်လျှင် ဆောင်ရွက်နိုင်ဘိသကဲ့သို့ အာဏာများကို ယင်းအဖွဲ့အစည်းကိုယ်စား ဆောင်ရွက်ခွင့်ရှိသည်။

## ဒါရိုက်တာများ

၅၇။ ဥက္ကဋ္ဌ အပါအဝင် ဒါရိုက်တာဦးရေသည် (၇) ဦးထက်မနည်းစေဘဲ (၁၅) ဦးထက် မများစေရ။

၅၈။ ဒါရိုက်တာတစ်ဦးသည် အစုရှယ်ယာအနည်းဆုံး (၅,၀၀၀) စု ကို ပိုင်ဆိုင်ရမည်ဖြစ်ပြီး မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေပုဒ်မ (၈၅) ပါ ပြဋ္ဌာန်းချက်များကိုလည်း လိုက်နာရန်တာဝန်ရှိသည်။

၅၉။ ကုမ္ပဏီ၏ ပထမဦးဆုံးဒါရိုက်တာများမှာ -

(၁) ဦးဝင်းအောင်
(၂) ဦးအောင်ဇော်ဦး
(၃) ဦးစစ်လွင်
(၄) ဦးသူရိန်အောင်
(၅) ဦးဘုန်းဘုန်းနိုင်
(၆) ဒေါ်ခိုင်သဇင်စိုး
(၇) ဒေါ်မိုးမြမြ
(၈) ဒေါ်အိနှင်းပွင့်
(၉) ဦးရဲထွတ်ဝင်း
(၁၀) ဦးကျော်ဇောအောင်
(၁၁) ဦးအောင်ကြီး

၆၀။ ကုမ္ပဏီ၏ ပထမဦးဆုံးဒါရိုက်တာများက လိုအပ်သည်ဟု ယူဆပါက သာမန်ထက်ထူးကဲသော အထွေထွေအစည်းအဝေးတစ်ရပ်ခေါ်ယူ၍ သာမန်ဆုံးဖြတ်ချက်တစ်ရပ်ဖြင့် ပထမဦးဆုံး ဒါရိုက်တာများကို တိုးချဲ့ခန့်ထားနိုင်သည်။

၆၁။ ကုမ္ပဏီသည် ကုမ္ပဏီနှင့် ဆက်နွယ်ပတ်သက်နေသောသူများ၏ အကျိုးစီးပွားကို ကာကွယ်နိုင်ရန် အလို့ငှာလွတ်လပ်စွာ ဆောင်ရွက်နိုင်သော ဒါရိုက်တာများကို ခန့်အပ်နိုင်သည်။

ထို့အပြင် ထိုဒါရိုက်တာအဖွဲ့သည် စာရင်းစစ်ကော်မတီ (Audit Committee)၊ စည်းကမ်းပိုင်းဆိုင်ရာ စိုးမိုးရေးကော်မတီ (Governance Committee)၊ အခကြေးငွေမျှတရေးကော်မတီ (Remuneration Committee)၊ လူမှန်နေရာမှန်ရရှိရေးကော်မတီ (Nomination Committee)၊ ဆုံးရှုံးမှုအန္တရာယ် စီမံခန့်ခွဲရေး ကော်မတီ (Risk Management Committee) စသည်တို့ကို ဖွဲ့စည်းနိုင်သည်။

## ဒါရိုက်တာများ၏ အာဏာနှင့်တာဝန်များ

၆၂။ ကုမ္ပဏီ၏လုပ်ငန်းကို ဒါရိုက်တာများက စီမံအုပ်ချုပ်ရမည်။ ထိုပုဂ္ဂိုလ်တို့သည် ကုမ္ပ
ပျိုးထောင်ခြင်း နှင့် မှတ်ပုံတင်ခြင်းကိစ္စရပ်အသီးသီးအတွက် ကုန်ကျစရိတ် အဖိုးအခများအား
ပေးချေနိုင်သည်။ ထို့အပြင် မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေအရဖြစ်စေ၊ လတ်တ
အချိန်တွင် တည်ဆဲဖြစ်သော မည်သည့်ဥပဒေ ပြုပြင်ပြောင်းလဲချက်အရဖြစ်စေ၊ ဤသင်းဖွဲ့
မျဉ်းများအရဖြစ်စေ၊ အထွေထွေအစည်းအဝေးကြီးတွင် ကုမ္ပဏီကဆောင်ရွက်ရန် မလိုအပ်
အာဏာများကို ယင်းဒါရိုက်တာများက သုံးစွဲနိုင်သည်။ သို့ရာတွင် ဤစည်းမျဉ်းအရ သတ်မှတ်
တစ်ခုကိုလည်းကောင်း၊ အက်ဥပဒေ ပြောင်းလဲချက်များကိုလည်းကောင်း၊ အထွေထွေအစည်း
ကြီး၌ ပြဋ္ဌာန်းချက်များနှင့် ဆန့်ကျင်မှုမရှိသော စည်းမျဉ်းများကို လည်းကောင်း၊ ဒါရိုက်တာမ
လိုက်နာရမည်။ သို့ရာတွင် ကုမ္ပဏီက အထွေထွေအစည်းအဝေးတွင် သတ်မှတ်ခဲ့သော စည်
များသည် ဒါရိုက်တာများ၏ ကြိုတင်ဆောင်ရွက်ချက်များကို မထိခိုက်စေရ၊ မပျက်ပြယ်စေရ။

၆၃။ ဒါရိုက်တာများသည် အခါအားလျော်စွာ ဥက္ကဋ္ဌ၊ ဒု-ဥက္ကဋ္ဌများနှင့် မန်နေးဂျင်းဒါရိုက်တာမ
ရွေးချယ်ခန့်အပ်နိုင်သည်။ သင့်လျော်သော အချိန်ကာလနှင့် သင့်လျော်
ထောက်ပံ့ကြေး (လစာ သို့မဟုတ် ကော်မရှင် သို့မဟုတ် အမြတ်ဝေစုခံစားခွင့် သို့မ
တမျိုးစီကို တစ်စိတ်တဒေသခံစားခွင့်) ကို ၎င်းတို့က သင့်လျော်သည်ဟု ထင်မြင်သည့်အ
ပေး၍ ခန့်ထားနိုင်သည်။ သို့ရာတွင် ဖော်ပြပါစည်းမျဉ်းအပိုဒ် (၇၉) ကို လိုက်နာရမည်။

၆၄။ အောက်ဖော်ပြပါ ကိစ္စများတွင် ဒါရိုက်တာအဖွဲ့သည် ဥက္ကဋ္ဌ၊ ဒု-ဥက္ကဋ္ဌနှင့် မန်
ဒါရိုက်တာတို့အနက်မှ တစ်ဦးဦးကိုသော်လည်းကောင်း အာဏာအပ်နှင်းနိုင်သည်။

(က) မရွှေ့မပြောင်းနိုင်သော ပစ္စည်းများရောင်းဝယ်ခြင်း၊ တည်ဆောက်ခြင်း။

(ခ) အခြားအရောင်းအဝယ်ကိစ္စများ။

အထက်ပါလုပ်ပိုင်ခွင့်ထက်ကျော်လွန်သော ကိစ္စများ၊ ဖက်စပ်စာချုပ်ကဲ့သို့ အရေးကြီ
ပဋိညာဉ်စာချုပ်များ ချုပ်ဆိုခြင်းနှင့် အခြားအဖွဲ့အစည်းနှင့်ပူးပေါင်းဖက်စပ် လုပ်ကို
ကိစ္စရပ်များတွင် ဒါရိုက်တာအဖွဲ့၏ ဆုံးဖြတ်ချက်ရယူပြီးမှသာ လုပ်ကိုင်ရမည်။

၆၅။ ယခုလတ်တလောအချိန်တွင် ဒါရိုက်တာများသည် ကုမ္ပဏီအတွက် ချေငှားယူခြင်းဖြ
လည်းကောင်း၊ အခြားနည်းဖြင့်သော်လည်းကောင်း (အစုရှယ်ယာမတည်ငွေရင်းထုတ်ဝေခြင်း
ရရှိထားသော ငွေကြေးအနက် မရှင်းလင်းရသေးသဖြင့် ကျန်ရှိနေသည့် ငွေပမာဏသည် မ
အချိန်၌မဆို ကုမ္ပဏီ၏ အထွေထွေအစည်းအဝေး၏ ခွင့်ပြုချက်မရဘဲ ထည့်ဝင်ပြ
အစုရှယ်ယာ မတည်ငွေရင်းထက် ပိုလွန်ခြင်း မရှိစေရ။

၆၆။ ဒါရိုက်တာများသည် အခါအားလျော်စွာ တည်ရှိနေသော မြန်မာနိုင်ငံကုမ္ပဏီများ အက
သို့မဟုတ် ဆိုခဲ့သော ဥပဒေပြုပြင်ပြောင်းလဲချက်များအတိုင်း နည်းလမ်းတကျလိုက်နာပြီး၊
သဖြင့် ကုမ္ပဏီကဖန်တီးသော ပစ္စည်းဥစ္စာများဆိုင်ရာ ပေါင်နှံခြင်း၊ အာမခံတင်ထားခြင်း၊
များကို မှတ်ပုံတင်ခြင်းနှင့် ပတ်သက်၍လည်းကောင်း၊ ဒါရိုက်တာများစာရင်းကို မှတ်ပုံ
တစ်ရပ် ပြုလုပ်ထားခြင်းကိုသော်လည်းကောင်း၊ မှတ်ပုံတင်အရာရှိထံ အစုဝင်စာရင်းကို နှစ်
ပို့ခြင်းသော်လည်းကောင်း၊ ယင်းကိစ္စရပ်များဆိုင်ရာ အကြောင်းအကျဉ်း တစ်
လည်းကောင်း၊ မတည်ငွေရင်းစုဆည်းခြင်း သို့မဟုတ် တိုးချဲ့ခြင်းအတွက် အသိပေး အ
ကြားစာ၊ နို့တစ်စာ ပေးပို့ခြင်းကိုလည်းကောင်း၊ အထူးဆုံးဖြတ်ချက်မိတ္တူများ ပေးပို
လည်းကောင်း၊ ဒါရိုက်တာများ စာရင်း မိတ္တူတစ်စောင်ပေးပို့ခြင်းကိုလည်းကောင်း၊ အခြားအ
အလဲများဆိုင်ရာ အကြောင်းကြားစာများ ပေးပို့ခြင်းများကိုလည်းကောင်း ယ
ပြဋ္ဌာန်းချက်များနှင့်အညီ ပြုလုပ်ရမည်။

